ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၈၆/၂၀၁၈ ၂၀၁၈ ခုနှစ် ၊ ဇွန်လ 23 ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူ/ ကမကထပြုသူအမည်** MYANMAR ELECTRICAL BUSINESS GROUP PUBLIC COMPANY LIMITED

(၂) **နိုင်ငံသား**

(၃) **နေရပ်လိပ်စာ** အမှတ် (၃၀၇)၊ ၉ လမ်း၊ ရန်ကုန်စက်မှုဇုန်၊ ဇေကမ္ဘာ၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** လျှပ်စစ်သွယ်တန်းရာတွင် အသုံးပြုသော ကြေးသီး၊ ပိုလီမာလျှပ်ကာပစ္စည်းများ၊ ဗို့အားမြှင့်လိုင်း ကာကွယ်ခြင်းနှင့် ထိန်းချုပ်ခြင်း ဆိုင်ရာ မိန်းခလုတ်များ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** စက်မှုဝန်ကြီးဌာန၊ အမှတ် (၂) အကြီးစား စက်မှုလုပ်ငန်းပိုင် အမှတ် ၃၅ အကြီးစားစက်ရုံ (ချောက်)၊ မကွေးတိုင်း ဒေသကြီး၊ ချောက်မြို့၏ အနောက်တောင်ဘက် ၄ မိုင်အကွာ၊ ရေတွင်း ကျေးရွာအနီးရှိ မြေဧရိယာ ၁၆၇.၉၂ ဧက

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၁၂,၀၁၉.၆၄ သန်း (အမေရိကန်ဒေါ်လာ ၈.၁၁၄သန်းအပါအဝင်စုစုပေါင်းကျပ်တစ်သောင်းနှစ်ထောင်ဆယ့်ကိုးသန်းနှင့်ခြောက်သိန်း လေးသောင်း)

(၁၁) **တည်ဆောက်မှုကာလ** ၂ နှစ်

(၁၂) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၂၅ နှစ်

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** MYANMAR ELECTRICAL BUSINESS GROUP PUBLIC COMPANY LIMITED (မြန်မာလျှပ်စစ် စီးပွားရေး အဖွဲ့ အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်)

Thaung Tun

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၈ — စာအမှတ်၊မရက- ၃/ခ-၀၁၇/၂၀၁၈ ( ၀၉၅ )

🖷 ၀၁-၆၅၈၁၄၁ — ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၂၃ ရက်

အကြောင်းအရာ။ **Myanmar Electrical Business Group Public Company Limited (မြန်မာလျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်)၏ လျှပ်စစ်သွယ်တန်းရာတွင်အသုံးပြုသော ကြေးသီး၊ ပိုလီမာလျှပ်ကာပစ္စည်းများ၊ ဗို့အားမြှင့်လိုင်း ကာကွယ်ခြင်းနှင့် ထိန်းချုပ်ခြင်းဆိုင်ရာမိန်းခလုတ်များထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအဆိုပြုချက်အပေါ် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ Myanmar Electrical Business Group Public Company Limited (မြန်မာလျှပ်စစ် စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သော ကုမ္ပဏီ လီမိတက်) ၏ ၁၆-၅-၂၀၁၈ ရက်စွဲပါစာ

၁။ Myanmar Electrical Business Group Public Company Limited (မြန်မာလျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်) မှ စက်မှုဝန်ကြီးဌာန၊ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်းပိုင် အမှတ် ၃၅ အကြီးစားစက်ရုံ (ချောက်)၊ မကွေးတိုင်း ဒေသကြီး၊ ချောက်မြို့၏ အနောက်တောင်ဘက် ၄ မိုင်အကွာ၊ ရေတွင်းကျေးရွာအနီးရှိ မြေဧရိယာ ၁၆၇.၉၂ ဧကတွင် လျှပ်စစ်သွယ်တန်းရာတွင်အသုံးပြုသော ကြေးသီး၊ ပိုလီမာ လျှပ်ကာပစ္စည်းများ၊ ဗို့အား မြှင့်လိုင်း ကာကွယ်ခြင်းနှင့် ထိန်းချုပ်ခြင်း ဆိုင်ရာ မိန်းခလုတ်များ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဇွန်လ ၂၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် Myanmar Electrical Business Group Public Company Limited (မြန်မာ လျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်)အား လျှပ်စစ်သွယ်တန်းရာတွင် အသုံးပြုသော ကြေးသီး၊ ပိုလီမာ လျှပ်ကာပစ္စည်းများ၊ ဗို့အားမြှင့်လိုင်း ကာကွယ်ခြင်းနှင့် ထိန်းချုပ်ခြင်း ဆိုင်ရာ မိန်းခလုတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ ၀၈၆/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Myanmar Electrical Business Group Public Company Limited (မြန်မာလျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဖက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ၂၅ (နှစ်ဆယ့်ငါး) နှစ် နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်ဖြစ်သည်။

(ခ) လုပ်ငန်း၏ မြေငှားသက်တမ်းကာလမှာ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအား ငှားရမ်းမည့် သဘောတူစာချုပ်အရ ကနဦး ၂၅ နှစ်နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုချက်ဖြင့် နောက်ထပ် တစ်ကြိမ်လျှင် ၅ နှစ် စီဖြင့် နှစ်ကြိမ် သက်တမ်း တိုးမြှင့်ခွင့်ပြုနိုင်သည်။

(ဂ) Myanmar Electrical Business Group Public Company Limited (မြန်မာ လျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့်အချက်များနှင့်အညီ ခံစားခွင့်ပြု နိုင်ရန် လျှောက်ထားနိုင်သည်။

(ဃ) Myanmar Electrical Business Group Public Company Limited (မြန်မာ လျှပ်စစ်စီးပွားရေးအဖွဲ့အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှု ရည်မှန်းချက်များကို အကောင်းဆုံး** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(င) Myanmar Electrical Business Group Public Company Limited (မြန်မာ လျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်း ဥပဒေအခန်း(၂၀)တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(စ) Myanmar Electrical Business Group Public Company Limited (မြန်မာ လျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) Myanmar Electrical Business Group Public Company Limited (မြန်မာ လျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်

အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဓ) Myanmar Electrical Business Group Public Company Limited (မြန်မာ လျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်)သည် မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက် နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံ သည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Myanmar Electrical Business Group Public Company Limited (မြန်မာ လျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်) သည် လုပ်ငန်း ဆောင်ရွက် ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရ ဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စု ဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင် ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ် ချက်များနှင့်အညီဆောင်ရွက်ပြီး မိတ္တူ (၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(သောင်းထွန်း)
ဥက္ကဋ္ဌ

**Myanmar Electrical Business Group Public Company Limited**
**(မြန်မာ လျှပ်စစ်စီးပွားရေးအဖွဲ့ အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်)**
**ဖြန့်ဝေခြင်း**
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မကွေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ် ၂ အကြီးစားစက်မှုလုပ်ငန်း
မကွေးတိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဇွန် လ ၂၆ ရက်

အကြောင်းအရာ။ **စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ရက်အား ကော်မရှင်သို့တင်ပြရန်ကိစ္စ**

၁။ ကျွန်တော်/ ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၄၅ အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းတည်ဆောက်မှု သို့မဟုတ် လုပ်ငန်းပြင်ဆင်မှုကာလပြီးစီးသည့်နေ့မှစ၍ ရက်ပေါင်း ၃၀ အတွင်း လုပ်ငန်းပြီးစီးကြောင်း ကော်မရှင်သို့တင်ပြရန်နှင့် နည်းဥပဒေ ၁၄၆ အရ ကုန်ထုတ်လုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှုလုပ်ငန်းတစ်ခုခု စီးပွားဖြစ်စတင်လုပ်ကိုင်သော နေ့ရက်သတ်မှတ်ပေးနိုင်ရေးအတွက် အောက်ဖော်ပြပါ သတ်မှတ်ရက်အတိုင်း ကော်မရှင်သို့ တင်ပြရမည်ကို သိရှိပါသည်-

(က) ပြည်ပသို့တင်ပို့သည့် ကုန်ထုတ်လုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း တည်ဆောက်မှု သို့မဟုတ် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ပြင်ဆင်မှုကာလ ကုန်ဆုံးသည့် နေ့ရက်မှစ၍ ရက်ပေါင်း ၁၈၀ ထက် မကျော်လွန်ရန်။

(ခ) ပြည်တွင်းရောင်းချသည့် ကုန်ထုတ်လုပ်ငန်းများနှင့် ဝန်ဆောင်မှုလုပ်ငန်းများ အတွက် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း တည်ဆောက်မှု သို့မဟုတ် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ပြင်ဆင်မှု ကာလ ကုန်ဆုံးသည့်နေ့ရက်မှစ၍ ရက်ပေါင်း ၉၀ ထက် မကျော်လွန်ရန်။

၂။ အထက်ပါသတ်မှတ်ရက်အတွင်း တင်ပြရန်ပျက်ကွက်ခဲ့ပါက ကော်မရှင်မှသတ်မှတ်သည့် စီးပွားဖြစ်စတင်ဆောင်ရွက်သည့် နေ့ရက်အတိုင်း လိုက်နာဆောင်ရွက်ရမည်ကို သိရှိနားလည်ပါ ကြောင်း ဝန်ခံကတိပြု အပ်ပါသည်။

ရင်းနှီးမြှုပ်နှံသူလက်မှတ်

အမည် ကျော်သိန်းခိုင်

ရာထူး Chairman

ဌာန/ ကုမ္ပဏီတံဆိပ် MBB Group Public

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၂၅ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ခွင့်ပြုခဲ့သည့် လုပ်ငန်း ၄ ခု ၏ အဆိုပြုချက်များ ပေးပို့ရန်ကိစ္စ**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ကုမ္ပဏီ ၄ ခုအား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြု ခဲ့ပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပါ လုပ်ငန်းများနှင့် ပတ်သက်၍ လိုအပ်သည်များ ဆောင်ရွက်နိုင်ပါ ရန် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ ကြီးကြပ်ရေးဌာန၊ သက်ဆိုင်ရာ တိုင်းဒေသကြီး ဦးစီးမှူးရုံးများ၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနနှင့် အကောက်ခွန် ဦးစီးဌာနတို့သို့ အဆိုပြုချက်တစ်စောင်စီ ပူးတွဲပေးပို့ခွင့်ပြုပါရန်နှင့် ပေးပို့မည့်စာအား လက်မှတ် ရေးထိုး ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

| ရေးသွင်းသူ | စိစစ်သူ | အတည်ပြုသူ |
|---|---|---|
| (signature) | (signature) ၂၅.၆.၂၀၁၈ | (signature) 25.6.2018 |
| (ကေသီဆွေ) | (စန္ဒာမြင့်) | (ခင်ဥမ္မာအောင်) |
| ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး | ဒုတိယညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၃။ MIC မှ ခွင့်ပြုခဲ့သည့် လုပ်ငန်း ၄ ခု၏ ခွင့်ပြုမိန့်၊ ဆုံးဖြတ်ချက်နှင့် အဆိုပြုချက်များအား သက်ဆိုင်ရာတိုင်းဒေသကြီး၊ ကုန်သွယ်/ဦးစီးဌာန အကောက်ခွန်ဦးစီးဌာနသို့ ပူးတွဲပေးပို့မည့်စာအား စိစစ် တင်ပြအပ်ပါသည်။

(signature) ၂၅.၆.၁၈ (ခင်မြင့်အောင်)

ဒုတိယညွှန်ကြားရေးမှူးချုပ်

၄။ အတည်ပြုလက်မှတ်ရေးထိုးပေးပါရန် တင်ပြအပ်ပါသည်။

(signature) ၂၅.၆.၁၈

တွဲဖက်အတွင်းရေးမှူး

ဌ၊ (signature) ၂၅/၆

ရင်း၊ ၂

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း -၀၁-၆၅၈၁၂၈
ဖက်(စ်) - ၀၁-၆၅၈၁၄၁

စာအမှတ်၊ မရက-၃ / ထွေ /၂၀၁၈ ( ၃၁၃ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၂၇ ရက်

သို့

**ညွှန်ကြားရေးမှူးချုပ်**
**ကုန်သွယ်ရေးဦးစီးဌာန**
**ညွှန်ကြားရေးမှူးချုပ်**
**အကောက်ခွန်ဦးစီးဌာန**

အကြောင်းအရာ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ထုတ်ပေးခဲ့သည့် ခွင့်ပြုမိန့်များ ပေးပို့ခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးများမှ ခွင့်ပြုမိန့် ၄ ခုတို့အား အောက်ပါကုမ္ပဏီများသို့ ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်-

| | |
|---|---|
| (က) Myanmar Conch (Mandalay) Green Building Materials Co., Ltd. | ခွင့်ပြုမိန့်အမှတ် (၁၈၅/၂၀၁၈)(၃၁-၅-၂၀၁၈) |
| (ခ) Silver Shine International Co., Ltd. | ခွင့်ပြုမိန့်အမှတ် (၁၈၃/၂၀၁၈)(၄-၆-၂၀၁၈) |
| (ဂ) Myanmar Electrical Business Group Public Company Limited | ခွင့်ပြုမိန့်အမှတ် ၁၈၆/၂၀၁၈(၂၃-၆-၂၀၁၈) |
| (ဃ) Khin Maung Nyunt Steel Products & Galvanizing Company Limited | ခွင့်ပြုမိန့်အမှတ် ၁၉၁/၂၀၁၈(၂၃-၆-၂၀၁၈) |

၂။ သို့ဖြစ်ပါ၍ ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မိတ္တူ) ၄ စောင်အား လိုအပ်သည်များ ဆက်လက်ဆောင်ရွက်နိုင်ရန်အတွက် သက်ဆိုင်ရာ ကုမ္ပဏီမှ တင်သွင်းခဲ့သည့် အဆိုပြုချက်များနှင့်အတူ **ပူးတွဲ** ပေးပို့အပ်ပါသည်။

အတွင်းရေးမှူး (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန (ဘဏ္ဍာရေး)
ရုံးလက်ခံ/မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှု ဌာနခွဲ (၂)
(ရုံးတွင်းစာ)

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၂ မှ ခွင့်ပြုမိန့်ထုတ်ပေးခဲ့သည့် ကုမ္ပဏီ ၂ ခု၏ အဆိုပြုချက် ပေးပို့ခြင်းကိစ္စ**

၁။ ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၂ မှ Myanmar Electrical Business Group Public Company Limited နှင့် Khin Maung Nyunt Steel Products & Galvanizing Company Limited အား ခွင့်ပြုမိန့်များ ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ခွင့်ပြုမိန့် ထုတ်ပေးခဲ့သည့် ကုမ္ပဏီ ၂ ခု၏ ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မိတ္တူ)တို့အား လိုအပ်သည်များ စိစစ် ဆောင်ရွက်နိုင်ပါရန်အတွက် အဆိုပြုချက်နှင့်အတူ ပူးတွဲပေးပို့အပ် ပါသည်။

(စိုးမြင့်အောင်)
ညွှန်ကြားရေးမှူး

**ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကြီးကြပ်ရေးဌာနခွဲ**
စာအမှတ်၊ ရက - ၃ / ထွေ / ၂၀၁၈ ( ၃၀၀·၁ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၂၅ ရက်

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှု ဌာနခွဲ (၂)
(ရုံးတွင်းစာ)

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၂ မှ ခွင့်ပြုမိန့်ထုတ်ပေးခဲ့သည့် ကုမ္ပဏီ၏ အဆိုပြုချက် ပေးပို့ခြင်းကိစ္စ**

၁။ ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၂ မှ Myanmar Electrical Business Group Public Company Limited အား ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ခွင့်ပြုမိန့် ထုတ်ပေးခဲ့သည့် ကုမ္ပဏီ၏ ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မိတ္တူ)တို့ အား လိုအပ်သည်များ စိစစ် ဆောင်ရွက်နိုင်ပါရန်အတွက် အဆိုပြုချက်နှင့်အတူ ပူးတွဲပေးပို့အပ် ပါသည်။

(စိုးမြင့်အောင်)
ညွှန်ကြားရေးမှူး

**မကွေးတိုင်းဒေသကြီးဦးစီးမှူးရုံး**
စာအမှတ်၊ ရက - ၃ / ထွေ / ၂၀၁၈ ( ၃၀၀·၇ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၂၅ ရက်

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Electrical Business Group Public Company Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လျှပ်စစ် သွယ်တန်းရာတွင် အသုံးပြုသော ကြေးသီး၊ ပိုလီမာလျှပ်ကာပစ္စည်းများ၊ ဗို့အားမြင့် လိုင်းကာကွယ်ခြင်းနှင့် ထိန်းချုပ်ခြင်းဆိုင်ရာ မိန်းခလုတ်များ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ရင်းနှီးမြှုပ်နှံသူ | - Myanmar Electrical Business Group Public Company Limited |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - လျှပ်စစ်သွယ်တန်းရာတွင် အသုံးပြုသော ကြေးသီး၊ ပိုလီမာလျှပ်ကာပစ္စည်းများ၊ ဗို့အားမြင့်လိုင်းကာကွယ်ခြင်းနှင့်ထိန်းချုပ်ခြင်းဆိုင်ရာ မိန်းခလုတ်များ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - စက်မှုဝန်ကြီးဌာန၊ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်းပိုင် အမှတ် ၃၅ အကြီးစားစက်ရုံ (ချောက်)၊ မကွေးတိုင်းဒေသကြီး၊ ချောက်မြို့၏ အနောက်တောင်ဘက် ၄ မိုင်အကွာ၊ ရေတွင်းကျေးရွာအနီး |
| ၃။ | မြေပိုင်ရှင် | - အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန |
| | မြေအကျယ်အဝန်း | - ၁၆၇.၉၂ ဧက (၆၇၉၅၄၈.၇၃၁၂ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - အဆောက်အဦ ၂၈ လုံး |
| | နှစ်စဉ်မြေ/အဆောက်အဦ၊ စက်ပစ္စည်းနှင့် အခြားပုံသေပိုင်ပစ္စည်းများငှားရမ်းခ | - ကျပ် ၁၇၂.၀၀ သန်း |
| | Performance Bank Guarantee | - ကျပ် ၁၇.၂ သန်း<br>- |
| | မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ကနဦး ၂၅ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား<br>ငွေသား | - ကျပ် ၁၂,၀၁၉.၆၄ သန်း (US$ ၈.၁၁၄ သန်း အပါအဝင်)<br>**(ကျပ် သန်း)**<br>၁,၀၀၀.၀၀ |
| | စက်နှင့် စက်ပစ္စည်း (ပြည်ပ) | ၁၀,၉၅၃.၇၁ (US$ ၈.၁၁၄ သန်း ) |
| | အဆောက်အဦကုန်ကျစရိတ် | ၄၀.၀၀ |
| | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်း (ပြည်တွင်း) | ၂၅.၉၂ |
| | **စုစုပေါင်း** | **၁၂,၀၁၉.၆၃ (US$ ၈.၁၁၄ သန်း အပါအဝင်)** |

| | | | |
|---|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | -၁၀၀% ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ | |
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း | | |
| | **အမျိုးအစား** | အရေအတွက် | ရောင်းဈေးနှုန်း |
| | Porcelain Shackle Insulations | ၅၀၀,၀၀၀ | ၂,၇၀၀ |
| | Strain rod insulators for High Voltage | ၁၅၀,၀၀၀ | ၃,၃၇၅ |
| | 11 KV Pin Post Insulator | ၃၀,၀၀၀ | ၃,၃၇၅ |
| | Pin Post Insulator | ၃၀,၀၀၀ | ၆,၇၅၀ |
| | 12 KVA Pin Type Insulator | ၃၀,၀၀၀ | ၈,၁၀၀ |
| | Pin Insulator | ၁၀၀,၀၀၀ | ၁၄,၈၅၀ |
| | Disc porcelain Insulator | ၆၀၀ | ၁၃,၅၀၀ |
| | Disc porcelain Insulator | ၁၈၀,၀၀၀ | ၅,၄၀၀ |
| ၉။ | အခြားတင်ပြချက် | **ပြည်တွင်း**<br>**ဝန်ထမ်းဦးရေ** ၁၇၅ ဦး<br>**အမြင့်ဆုံးလစာ** ကျပ် ၁,၀၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၅၀,၀၀၀<br>(စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းပေးမည့် ဝန်ထမ်း ၁၅၉ ဦး ပါဝင်ပါသည်။)<br>- ၁ US$ = ၁,၃၅၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။<br>- Myanmar Electrical Business Group Public Company Limited ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်အမှတ်- ၁၃၈၆/ ၂၀၁၆-၂၀၁၇ (နပတ) (၉-၁၁-၂၀၁၆) နှင့် ငွေကြေးအထောက် အထားအဖြစ် Myanmar Electrical Business Group Public Company Limited သည် AYA Bank ၌ ငွေစာရင်းနှစ်ခု ဖွင့်လှစ်ထားရှိပြီး ကျပ် ၁၀,၂၇၄,၅၁၁.၇၉ နှင့် ကျပ် ၂,၅၃၅,၁၃၃,၁၆၅.၆၄ ရှိသည့် အထောက်အထားများအား တင်ပြထားပါသည်။ | |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - စက်ရုံငှားရမ်းသက်တမ်းအား ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၈) ၃၀-၁-၂၀၁၈ ဖြင့် ကနဦး ၂၅ နှစ် နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်ဖြင့် သဘောတူ ခွင့်ပြုခဲ့ပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- စက်မှုဝန်ကြီးဌာနမှ ကနဦး ၂၅ နှစ်နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် ငှားရမ်းရေးအတွက် စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေး ကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၆-၂၀၁၇) မှ သဘောတူ ခွင့်ပြုခဲ့ပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC ၂၇၉၀ တွင် အကျုံးဝင်ပါသည်။<br>- တရုတ်နိုင်ငံမှ နည်းပညာရယူသုံးစွဲမည် ဖြစ်ပြီး Made in Myanmar ဟု တံဆိပ်ရိုက်နှိပ်၍ ကုန်ပစ္စည်းများအား ဖြန့်ဖြူးမည်ဖြစ်ပါကြောင်းနှင့် ကုန်ကြမ်းများအား သဲကြမ်း၊ ကြွေကျောက်မှုန့်၊ မြေဖယောင်း၊ မြေဖြူမှုန့်နှင့် မြေဖြူစေးများအား အဓိက အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/ခ-၀၁၇/၂၀၁၈( ၀၉၀ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၁၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Electrical Business Group Public Company Limited မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လျှပ်စစ်သွယ်တန်းရာတွင် အသုံးပြုသော ကြွေသီး၊ ပိုလီမာလျှပ်ကာပစ္စည်းများ၊ မိုးအားမြင့်လိုင်း ကာကွယ်ခြင်းနှင့် ထိန်းချုပ်ခြင်းဆိုင်ရာမိန်းခလုတ်များထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Electrical Business Group Public Company Limited မှ စက်မှုဝန်ကြီးဌာန၊ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်းပိုင် အမှတ် ၃၅ အကြီးစားစက်ရုံ (ချောက်)၊ မကွေးတိုင်းဒေသကြီး၊ ချောက်မြို့၏ အနောက်တောင်ဘက် ၄ မိုင်အကွာ၊ ရေတွင်း ကျေးရွာအနီးရှိ မြေဧရိယာ ၁၆၇.၉၂ ဧကတွင် လျှပ်စစ်သွယ်တန်းရာတွင် အသုံးပြုသော ကြွေသီး၊ ပိုလီမာလျှပ်ကာပစ္စည်းများ၊ မိုးအားမြင့်လိုင်း ကာကွယ်ခြင်းနှင့် ထိန်းချုပ်ခြင်း ဆိုင်ရာ မိန်းခလုတ်များ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှ တစ်ဆင့် ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနနှင့် Myanmar Electrical Business Group Public Company Limited တို့အကြား ချုပ်ဆိုထားသည့် မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများအားငှားရမ်းသည့် သဘောတူစာချုပ်၊ မြေဆိုင်ရာ အထောက်အထားများ၊ ထုတ်လုပ်မှုပစ္စည်း နမူနာဓာတ်ပုံများအား ပူးတွဲ တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်ခွင့်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ် ၂/၂၀၁၈ (၁၀-၁-၂၀၁၈) အရ ငှားရမ်းမှုသက်တမ်း ကနဦး ၂၅ နှစ်နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် ခွင့်ပြုထားပါသည်။ မြေနှင့် အဆောက်အဦငှားရမ်းခမှာ မြေဧရိယာ ၁၆၇.၉၂ ဧက (၆၇၉၅၄၈.၇၃၁၂ စတုရန်းမီတာ) အတွက် တစ်နှစ်လျှင် ကျပ် ၁၇၂.၀၀ သန်း ဖြစ်ပါသည်။ Performance Bank Guarantee မှာ နှစ်စဉ်မြေငှားရမ်းခ၏ ၁၀% ဖြစ်သည့် ကျပ် ၁၇.၂ သန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၂၅ နှစ်နှင့် ၅ နှစ် ၂ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ၁၂,၀၁၉.၆၄ သန်း (US$ ၈.၁၁၄ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

ကျပ် (သန်း)

| | |
|---|---|
| ငွေသား | ၁,၀၀၀.၀၀ |
| စက်နှင့် စက်ပစ္စည်း (ပြည်ပ) | ၁၀,၉၅၃.၇၁ (US$ ၈.၁၁၄ သန်း ) |
| အဆောက်အဦကုန်ကျစရိတ် | ၄၀.၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်း | ၂၅.၉၂ |
| **စုစုပေါင်း** | ၁၂,၀၁၉.၆၃ (US$ ၈.၁၁၄ သန်း အပါအဝင်) |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၁၇၅ ဦး ခန့်ထားမည် ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၄၄,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းပေးမည့် ဝန်ထမ်း ၁၅၉ ဦး ပါဝင်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော ကုန်ပစ္စည်းများကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများအား အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် | ရောင်းဈေးနှုန်း |
|---|---|---|---|
| (က) | Porcelain Shackle Insulations | ၅၀၀,၀၀၀ | ၂,၇၀၀ |
| (ခ) | Strain rod insulators for High Voltage | ၁၅၀,၀၀၀ | ၃,၃၇၅ |
| (ဂ) | 11 KV Pin Post Insulator | ၃၀,၀၀၀ | ၃,၃၇၅ |
| (ဃ) | Pin Post Insulator | ၃၀,၀၀၀ | ၆,၇၅၀ |
| (င) | 12 KVA Pin Type Insulator | ၃၀,၀၀၀ | ၈,၁၀၀ |
| (စ) | Pin Insulator | ၁၀၀,၀၀၀ | ၁၄,၈၅၀ |
| (ဆ) | Disc porcelain Insulator | ၆၀၀ | ၁၃,၅၀၀ |
| (ဇ) | Disc porcelain Insulator | ၁၈၀,၀၀၀ | ၅,၄၀၀ |

၈။ ငွေကြေးအထောက်အထားအဖြစ် Myanmar Electrical Business Group Public Company Limited သည် AYA Bank ၌ ငွေစာရင်းနှစ်ခု ဖွင့်လှစ်ထားရှိပြီး ကျပ် ၁၀,၂၇၄,၅၁၁.၇၉ နှင့် ကျပ် ၂,၅၃၅,၁၃၃,၁၈၅.၆၄ရှိသည့် အထောက်အထားများအား တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) ဥပဒေပုဒ်မ ၃၆(ဃ)အရ နိုင်ငံတော်ပိုင်မြေနှင့် အဆောက်အဦများ အသုံးပြုသည့် လုပ်ငန်းဖြစ်ပါသဖြင့် ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ကြောင်းနှင့် သွင်းကုန်အစားထိုး လုပ်ငန်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) စက်မှုဝန်ကြီးဌာန၊ အမှတ် ၂ အကြီးစား စက်မှုလုပ်ငန်းရှိ အမှတ် ၃၅ အကြီးစား စက်ရုံ (ချောက်) အား Myanmar Electrical Business Group Public Co., Ltd. သို့ တစ်နှစ်လျှင် ငှားရမ်းခငွေ ကျပ် ၁၇၂.၀၀ သန်းနှင့် ငှားရမ်းခြင်းအတွက် ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၂/၂၀၁၈) ၃၀-၁-၂၀၁၈ မှ ကနဦး ၂၅ နှစ် နှင့် သက်တမ်း တိုး ၅ နှစ် ၂ ကြိမ်ဖြင့် သဘောတူ ခွင့်ပြုခဲ့ပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် မေလ ၂၁ ရက်နေ့တွင် ကျင်းပ ပြုလုပ်သော(၁၂/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး အစည်းအဝေး တွင် အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်း သည် လက်ခံဆောင်ရွက်သင့်သည့်လုပ်ငန်းဖြစ်ကြောင်းဆွေးနွေးခဲ့ပါသည်။

(စ) ကုမ္ပဏီမှ စက်မှုဝန်ကြီးဌာန အမှတ် ၂ အကြီးစားစက်မှုလုပ်ငန်းနှင့် ဆွေးနွေး သဘောတူညီမှု စာလွှာ (AOD) အား ၂၈-၂-၂၀၁၈ ရက်နေ့တွင် လက်မှတ် ရေးထိုးခဲ့ပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင် ထားသည့် မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအား ငှားရမ်းသည့် သဘောတူ စာချုပ် (မူကြမ်း) အား တင်ပြထားပါသည်။

(ဆ) အဆိုပါ သဘောတူစာချုပ် (မူကြမ်း) တွင် စက်မှုဝန်ကြီး ဌာန၊ စီမံခန့်ခွဲရေး ကော်မတီသို့ တင်ပြအတည်ပြုချက်ရယူ၍ ငှားရမ်းခနှုန်းထားအား ၂ နှစ် ၁ ကြိမ် ပြန်လည်သုံးသပ်နိုင်ပြီး နောက်ဆုံးငှားရမ်းခ၏ ၂% မှ ၅% အတွင်း တိုးမြှင့် ပြင်ဆင်သတ်မှတ်နိုင်သည်ဟု ဖော်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ မြန်မာ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Electrical Business Group Public Company Limited မှ လျှပ်စစ်သွယ်တန်းရာတွင် အသုံးပြုသော ကြေးသီး၊ ပိုလီမာ လျှပ်ကာ ပစ္စည်းများ၊ ဗို့အားမြှင့်လိုင်း ကာကွယ်ခြင်းနှင့် ထိန်းချုပ်ခြင်း ဆိုင်ရာ မိန်းခလုတ်များ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

လျှို့ဝှက်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅ - စမ (၂) ၂၀၁၈ ( ၈၁၆ )

ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇွန် လ ၁၇ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Electrical Business Group Public Co.,Ltd. မှ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ထောက်ခံချက်ပေးပို့ခြင်း**

M.586
2016/18

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄.၅.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၃/ ခ-၀၁၇/ ၂၀၁၈(၀၆၀)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၅)အကြီးစားစက်ရုံ (ချောက်) အား နှစ်ရှည်ငှားရမ်းဆောင်ရွက်မည့် Myanmar Electrical Business Group Public Co.,Ltd. မှ ကြွေသီးအမျိုးမျိုးနှင့် အခြားလျှပ်စစ်နှင့်သက်ဆိုင်သော ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့် တင်ပြခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၂/၂၀၁၈)၏ ဆုံးဖြတ်ချက်နှင့်အညီ လိုအပ်သည်များ ဆောင်ရွက်ပြီး ဝန်ကြီးဌာနမှတစ်ဆင့် ပြန်လည်တင်ပြပေးရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ပါ၍ Myanmar Electrical Business Group Public Co.,Ltd. အနေဖြင့် အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်)တွင် ကြွေသီးအမျိုးမျိုးနှင့် အခြားလျှပ်စစ်နှင့်သက်ဆိုင်သော ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်လိုခြင်းနှင့်စပ်လျဉ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး၏ ခွင့်ပြုချက်(မိတ္တူ)၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်(မိတ္တူ)နှင့် သဘောတူစာချုပ်(မူကြမ်း)တို့ကို ပူးတွဲ၍ ထောက်ခံပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

လျှို့ဝှက်

D:\2018\Jun-2018.docx54

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

စာအမှတ်၊ ၃၈ / ၁၆၈ / အဖရ (၂ / ၂၀၁၈)။
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၈ ရက်။

အ မှာ စာ

အကြောင်းအရာ။ **အမှတ်(၃၅) အကြီးစားစက်ရုံ(ချောက်)အား Myanmar Electrical Business Group Public Co., Ltd. သို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြခြင်း။**

၁။ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၃၀ ရက် (အင်္ဂါ)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၈) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

**ပြည်ထောင်စုဝန်ကြီး**
**စက်မှုဝန်ကြီးဌာန**

၃၈။ အမှတ်(၃၅) အကြီးစားစက်ရုံ(ချောက်)အား Myanmar Electrical Business Group Public Co., Ltd. သို့ ငှားရမ်းဆောင်ရွက် ခွင့်ပြုနိုင်ပါရန် တင်ပြခြင်း။

စက်မှုဝန်ကြီးဌာန၏ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၁၅ ရက် နေ့စွဲပါ အမှာစာ အမှတ်၊ ၁၅-စမ (၂) ၂၀၁၇-၂၀၁၈ (၂၇၅၀)။

စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ်(၃၅) အကြီးစားစက်ရုံ(ချောက်)အား Myanmar Electrical Business Group Public Co., Ltd. သို့ တစ်နှစ်လျှင် ငှားရမ်းခငွေကျပ် (၁၇၂.၀၀၀) သန်း၊ တစ်လလျှင် ငွေကျပ်(၁၄.၃၃၃)သန်းဖြင့် (၂၅+၅+၅)နှစ် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် သဘောတူကြသည်။ ဆောင်ရွက်ရန်၊ စက်မှု။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂ (၅) ၃ - ၅၁ / နပတ ( ၄၉၈)

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ ၂၄ ရက်

သို့

**စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၅)အကြီးစားစက်ရုံ (ချောက်) ကို Myanmar Electrical Business Group Public Co., Ltd သို့ ငှားရမ်းမည့် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်ကိစ္စ**

ရည် ညွှန်း ချက် ။ စက်မှုဝန်ကြီးဌာန၏ ၁၁-၄-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၁၅-စမ (၂) ၂၀၁၈ (၁၂၅)

၁။ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၅)အကြီးစားစက်ရုံ (ချောက်) ကို Myanmar Electrical Business Group Public Co., Ltd သို့ ငှားရမ်းမည့် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံသည့်ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာတွင် အမှတ်(၃၅)အကြီးစားစက်ရုံ (ချောက်) ကို Myanmar Electrical Business Group Public Co., Ltd သို့ တစ်နှစ်ငှားရမ်းခငွေကျပ် (၁၇၂.၀၀၀) သန်းဖြင့် ၂၅+၅+၅ နှစ် ငှားရမ်းဆောင်ရွက်ခွင့်ကို ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် ၂/ ၂၀၁၈ မှ သဘောတူခွင့်ပြုခဲ့ကြောင်း၊ ထို့ပြင် သယံဇာတနှင့်သဘာဝပတ်ဝန်း ကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်

ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာနတို့သို့ သဘောထားမှတ်ချက်တောင်းခံခဲ့ပြီး အဆိုပါဌာနများ၏ သဘောထားမှတ်ချက်များအတိုင်း ပြင်ဆင်ပြုစုပြီး ကုမ္ပဏီနှင့် နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍စာချုပ်(မူကြမ်း)အား ပြုစုထားကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ ပေးပို့လာသော စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)ပါ၎င်းရမ်းခြင်းနှင့်စပ်လျဉ်း၍နိုင်ငံတော်သမ္မတရုံး၏၁၀-၄-၂၀၁၇ ရက်စွဲပါ ညွှန်ကြားချက်အမှတ် ၁/ ၂၀၁၇ တင်ဒါလုပ်ထုံးလုပ်နည်း စည်းကမ်းချက်များအတိုင်း ဆောင်ရွက်ရန်လိုအပ်ကြောင်း ဦးစွာအကြံပြုပါသည်၊

(ခ) စာချုပ်(မူကြမ်း)၏ ပထမအပိုဒ်တွင် ဖော်ပြထားသော စည်းကမ်းချက်သည် စာချုပ်(မူကြမ်း)၏ အပိုဒ် ၁ တွင်ဖော်ပြထားပြီးဖြစ်သဖြင့် ထည့်သွင်းဖော်ပြရန်မလိုအပ်ဟု ယူဆပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)ပါ ရည်ရွယ်ချက်အပိုဒ် ၃ တွင် နိုင်ငံတော်အတွက်မည်သို့အကျိုးကျေးဇူးရှိမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၅(ခ)တွင် ဖော်ပြထားသည့် သုံးစွဲခွင့်ပြုမည့် မြေဧရိယာ ၁၆၇.၉၂ ဧကသည် လုပ်ငန်းအတွက်အမှန်တကယ်အသုံးပြုရန် လိုအပ်သော မြေဧရိယာသာဖြစ်သင့်သဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၅(ခ)တွင် "*** ဝန်ထမ်းအိမ်ရာမြေနှင့် ဝန်ထမ်းအိမ်ရာများကို နှစ်ဖက်ညှိနှိုင်း၍ စီမံခန့်ခွဲရေးကော်မတီ၏ ခွင့်ပြုချက်ဖြင့် အသုံးပြုခွင့်ပေးမည်" ဟုဖော်ပြထားပါသည်။ *** နှင့်ဖော်ပြချက်အရ ဝန်ထမ်းအိမ်ရာမြေနှင့် ဝန်ထမ်းအိမ်ရာများအတွက် မြေဧရိယာမည်မျှကို အသုံးပြုခွင့်ပေးမည်ဖြစ်ကြောင်း သတ်မှတ်ထားခြင်းမရှိသေးသဖြင့် စာချုပ်

ချုပ်ဆိုချိန်တွင် တိကျစွာသတ်မှတ်ဖော်ပြပြီးဖြစ်ရန် လိုအပ်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၇ ပါ ငှားရမ်းမည့်အချိန်ကာလ ၂၅ နှစ်သည် ရင်းနှီးမြှုပ်နှံမှုပမာဏ၊ အရင်းကြေကာလတို့နှိုင်းယှဉ်လျက် သင့်လျော်မှုရှိ မရှိ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၁၂ တွင်ဖော်ပြထားသည့် ငှားရမ်းခနှုန်းထားသည် ကာလပေါက်ဈေးနှင့်အညီဖြစ်သည့် ငှားရမ်းခနှုန်းထားဟုတ် မဟုတ် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ် ၁၂၊ ၂၁(က)နှင့် ၂၅ တို့တွင် ဖော်ပြထားသော "အခြားပုံသေပိုင်ပစ္စည်းများ" ဆိုသည်မှာ မည်သည့်ပစ္စည်းများဖြစ်ကြောင်း နောင်အငြင်းပွားမှုမဖြစ်စေရေးအတွက် ရှင်းလင်းတိကျစွာဖော်ပြသင့်ပြီး ယင်းပစ္စည်းများ၏စာရင်းများကို စာချုပ်တွင်နောက်ဆက်တွဲအဖြစ် ဖော်ပြသင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ် ၁၇ တွင်ဖော်ပြထားသော စပေါ်ငွေကျပ် (၁၄.၃၄)သန်းကိုမည်သည့်အချိန်မှ ပြန်လည်ထုတ်ပေးမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ် ၂၀ တွင် "စာချုပ်ချုပ်ဆိုပြီး တစ်နှစ်ပြည့်ပြီးနောက် (၃)လတစ်ကြိမ် ငှားရမ်းခပေးသွင်းရာတွင် ငှားရမ်းခပေးသွင်းရန် နောက်ကျပါက ရက်သတ္တပတ်၊ တစ်ပတ်နောက်ကျတိုင်းရက်လွန်ကြေးအဖြစ် (၃)လအတွက် ငှားရမ်းခ၏ ၁% ကို အငှားချထားခြင်းခံရသူမှ ပေးသွင်းရမည်" ဟု ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ ရက်လွန်ကြေးကို(၁)ရက်နောက်ကျပါက မည်မျှပေးသွင်းရမည်ဖြစ်ကြောင်း တွက်ချက်ဖော်ပြသင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)အပိုဒ် ၂၁(ဂ)ပါ လက်ကျန်ပစ္စည်းအားလုံးကို မည်သည့်အချိန်တွင် ဝယ်ယူရမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ဃ)တွင် "×××××× စာချုပ်ချုပ်ဆိုခြင်းမပြုမီ ပြည်တွင်းပြည်ပကြွေးမြီများရှိပါက အငှားချထားသူမှ တာဝန်ယူဆောင်ရွက်ရမည်" ဟုဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ ပြည်တွင်းပြည်ပကြွေးမြီများရှိပါက ယင်းကိစ္စများကို ပြီးပြတ်အောင်ဆောင်ရွက်ပြီးမှသာ ယခုစာချုပ်(မူကြမ်း)အား ချုပ်ဆိုဆောင်ရွက်သင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း)အပိုဒ် ၂၃ တွင် အငြင်းပွားမှုအား တရားရုံးတွင်ဖြေရှင်းမည်ဖြစ်ကြောင်း ဖော်ပြထား၍ ယင်းစာပိုဒ်ပါ "အငြင်းပွားမှုနှင့်ပတ်သက်သောကုန်ကျစရိတ်အားလုံးကို ရှုံးသူမှကျခံရမည်" ဟူသောအချက်အား ထည့်သွင်းဖော်ပြရန်မလိုအပ်သဖြင့် မင်နီဖြင့် ပယ်ဖျက်ပေးလိုက်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း)အပိုဒ် ၂၄ တွင် "××××××× မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့ထံသို့ ချက်ချင်းအကြောင်းကြားရမည်" ဟုဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အကြောင်းကြားရန်မလိုအပ်သဖြင့် မင်နီဖြင့် ပယ်ဖျက်ပေးလိုက်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း)အပိုဒ် ၂၆ ပါ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် စာချုပ်ပျက်ပြယ်နိုင်သော်လည်း စာချုပ်သစ်ညှိနှိုင်းချုပ်ဆိုနိုင်သည်ဆိုသည့်အချက်အား လက်ခံရန်သင့် မသင့် ဌာနမှ ပြန်လည်စဉ်းစားသင့်ပါသည်၊

(တ) စာချုပ်(မူကြမ်း)အပိုဒ် ၃၄(က)(၁)တွင် "မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များကြောင့် အငှားချထားသည့်စက်ရုံရှိ ပစ္စည်းများပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်းဆက်လက်ဆောင်ရွက်ရန်မဖြစ်နိုင်တော့ခြင်း" ဟုဖော်ပြထားရာ အဆိုပါ

မလွန်ဆန်နိုင်သည့်ဖြစ်ရပ်ဖြစ်ပေါ်သည့်ကာလ အပိုင်းအခြားတစ်ခုအား သတ်မှတ်ဖော်ပြသင့်ပါသည်။ ယင်းကာလထက်ပိုမိုကျော်လွန်ဖြစ်ပွားမှသာ စာချုပ်ရပ်စဲသင့်သဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ထ) စာချုပ်(မူကြမ်း)၏ "စာချုပ်ရပ်စဲခြင်း" အပိုဒ် ၃၄ တွင် အငှားချထားခြင်းခံရသူမှ စာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်နိုင်ခြင်းမရှိပါက စာချုပ်ကိုရပ်စဲမည်ဖြစ်ကြောင်း ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း)တွင် အငှားချထားခြင်းခံရသူမှ စာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်နေသည့်အချိန်တွင် အငှားချထားသူမှ အမြဲစောင့်ကြည့်အကဲဖြတ်ခြင်း (monitoring) ပြုလုပ်သွားမည်ဖြစ်ကြောင်း စည်းကမ်းချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဓ) မြေငှားရမ်းခြင်းစာချုပ်အား စာချုပ်စာတမ်းမှတ်ပုံတင်ခြင်းဥပဒေနှင့်အညီ စာချုပ်စာတမ်းမှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ရမည်ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်၊

(န) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ ဤ စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းရန်အကြံပြုပါသည်။

၅။ Myanmar Electrical Business Group Public Co., Ltd သည် စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်

လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည့်အချက်များနှင့် စပ်လျဉ်း၍ စာချုပ်မချုပ်ဆိုမီကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၆။ ဤ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ပြည်ထောင်စုရှေ့နေချုပ်(ကိုယ်စား)
(ဒေါက်တာသီတာဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ

# အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်)



# အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်)၊ သုံးစွဲခွင့်ပြုမည့်မြေနေရာပြမြေပုံ

နောက်ဆက်တွဲ (က)




| | | |
|---|---|---|
| စက်ရုံဧရိယာ | ၁၈.၁၂ | ဧက |
| မြစ်ရေတင်ဧရိယာ | ၁၄၉.၈၀ | ဧက |
| ငှားရမ်းမည့်ဧရိယာစုစုပေါင်း | ၁၆၇.၉၂ | ဧက |

# Factory Layout Plan



## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅- စမ(၂) ၂၀၁၇- ၂၀၁၈( ၁၈၂၃ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ၉ ရက်

အကြောင်းအရာ။ **အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်)အား Myanmar Electrical Business Group Public Co.,Ltd. သို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅.၉.၂၀၁၇ ရက်စွဲပါစာအမှတ် မရက-ဖ/၁/၂၀၁၇(၀၈၈၇)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်)တွင် အဆင့်မြင့်ကြွေသီးများထုတ်လုပ်လျက်ရှိရာ အစိုးရ-ပုဂ္ဂလိက ပူးပေါင်းဆောင်ရွက်နိုင်ရေးအတွက် EoIခေါ်ယူပြီးစိစစ်ခဲ့ရာ တစ်နှစ်လျှင်အသားတင်ငှားရမ်းခငွေ ကျပ်(၁၇၂.၀၀၀)သန်းဖြင့် Myanmar Electrical Business Group Public Co.,Ltd. သို့ (၂၅+၅+၅)နှစ်ဖြင့် ငှားရမ်းဆောင်ရွက်ရန် ရွေးချယ်ခဲ့ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် စက်ရုံအားငှားရမ်း၍ အောက်ပါအတိုင်း ဆောင်ရွက်သွားရန် စီစဉ်ထားရှိပါသည်-

(က) 33 KV & 11KV Pin Insulator ၏ လိုအပ်ချက်များ ရရှိရန် ပြန်လည်ပြင်ဆင်၍ Creepage distance နှင့် Spindle Height များကို မွမ်းမံဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ခ) ကုမ္ပဏီအနေဖြင့် လိုင်းအပြစ်နည်းပါးစေရန်နှင့် ရေရှည်ကြံ့ခိုင်မှုရှိစေရန် ပထမအဆင့်တွင် နိုင်ငံတကာအသိအမှတ်ပြု စံချိန်စံညွှန်း စစ်ဆေးအတည်ပြုသော (Type Tested)ထောက်ခံချက်ရရှိရေးအတွက် ထုတ်ကုန်များကို ပြည်ပသို့ တင်ပို့၍ အတည်ပြုချက်ရယူမည်ဖြစ်ပြီး၊ ဒုတိယအဆင့်တွင် စက်ရုံသို့ ပြည်ပပညာရှင်များအား ဖိတ်ခေါ်၍ နိုင်ငံတကာအသိ အမှတ်ပြုလက်မှတ်များရရှိအောင် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဂ) လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ စံချိန်စံညွှန်းများအတိုင်း ထုတ်လုပ်ပြီး နိုင်ငံတကာအသိအမှတ်ပြု Test Certificate များ ရရှိသည်အထိ ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဃ) နိုင်ငံတကာအဆင့်မီ စက်ကိရိယာများ ထပ်မံဖြည့်ဆည်းခြင်း၊ နည်းပညာဆိုင်ရာ တိုးချဲ့ခြင်း၊ ဝန်ထမ်းများ၏ ကျွမ်းကျင်မှုကို မြှင့်တင်ခြင်းများကို တစ်ဆက်တည်း ဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ သို့ပါ၍ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်)အား Myanmar Electrical Business Group Public Co.,Ltd. သို့ (၂၅+၅+၅)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့် ခွင့်ပြုနိုင်ပါရန် ကုမ္ပဏီ၏အဆိုပြုလွှာ အားပူးတွဲလျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူကို

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

## အမှတ် ( ၃၅ ) အကြီးစားစက်ရုံ ( ချောက် )
## ငှားရမ်းမည့် မြေဧရိယာ ပြမြေပုံ




| | | | |
|---|---|---|---|
| | ငှားရမ်းမည့် မြေဧရိယာ (၁) | – | ၁၆၇.၉၂ ဧက |
| | ဝန်ထမ်းအိမ်ယာနှင့် ဆက်စပ်မြေဧရိယာ (၂) | – | ၂၃၁.၈၅ ဧက |
| | လူပို့ဆောင်နှင့် ဆက်စပ်မြေဧရိယာ (၃) | – | ၈၁.၈၄ ဧက |

အမှတ် (၃၅) အကြီးစားစက်ရုံ (ချောက်)
ဌာနရမ်းအသုံးချဧရိယာ (၁၆၇.၉၂) ဧက

| စဉ် | ဦးပိုင်အမှတ် | မြေကွက်အမှတ် | မြေဧရိယာ | | မှတ်ချက် |
|---|---|---|---|---|---|
| | | | ဧက | ဒသမ | |
| ၁ | ၄၆/၁ | ၈၆ | ၉ | ၄၈ | |
| ၂ | ၄၇ | ၁၇၄ | ၅ | ၉၂ | |
| ၃ | ၄၉/၁/၂/၃ | - | ၄ | ၇၂ | |
| ၄ | ၃၁/၁ | ၉၅ | ၅ | ၅၈ | |
| ၅ | ၄၅ | ၁၇၀ | ၉ | ၁၄ | |
| ၆ | ၄၈/ဃ | ၁၇၁/၁၀၆ | ၁ | ၂၀ | |
| ၇ | ၄၈/ခ | ၁၇၁/၁၈၅ | ၁ | ၅၀ | |
| ၈ | ၄၈/က/၁ | ၁၇၁ | ၁ | ၇၀ | |
| ၉ | ၄၈/က/၂ | - | ၁ | ၇၀ | |
| ၁၀ | ၄၈/က/၃ | - | ၄ | ၅၆ | |
| ၁၁ | ၃၁/၂ | ၉၃ | ၆ | ၆၆ | |
| ၁၂ | ၃၁/၂/၁ | ၉၆/၁၆၅ | ၆ | ၆၄ | |
| ၁၃ | ၃၁/၂/၂ | ၁၀၀ | ၆ | ၆၄ | |
| ၁၄ | ၄၃/၃ | - | ၄ | ၉၀ | |
| ၁၅ | ၄၂ | - | ၅ | ၂၁ | |
| ၁၆ | ၄၃/၂ | ၁၅၆ | ၄ | ၉၀ | |
| ၁၇ | ၄၃/၁ | ၁၅၅ | ၅ | ၇၉ | |
| ၁၈ | ၃၅ | ၁၀၇ | ၁၀ | ၁ | |
| ၁၉ | ၃၄ | ၁၀၆ | ၁၀ | ၂ | |
| ၂၀ | ၃၆/က | ၁၁၁ | ၃ | ၇၅ | |
| ၂၁ | ၃ | ၆၉ | ၁၄ | ၅၅ | |
| ၂၂ | N - ၁၀ | - | ၀ | ၅ | |
| ၂၃ | ၄ | ၆၆/၆၅ | ၄ | ၆၇ | |
| ၂၄ | ၅ | ၅၉/၆၀/၆၁/၇၀ | ၁၉ | ၂၈ | |
| ၂၅ | ၃၃ | ၁၀၅ | ၈ | ၀ | |
| ၂၆ | ၂၉/၂ | - | ၁ | ၂၅ | |
| ၂၇ | ၄၄ | ၁၆၃ | ၃ | ၇၂ | |
| ၂၈ | ၃၂ | ၁၀၂ | ၆ | ၃၈ | |
| | စုစုပေါင်း ဌာနရမ်းမည့်မြေဧရိယာ | | ၁၆၇ | ၉၂ | |

၀၀4၁၁၆

(Stamp: ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန — စာအမှတ် ……… ရက်စွဲ ………)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
## ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
## ငွေလက်ခံရန်အကြောင်းကြားစာ

အမှတ်စဉ်- ၅

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇွန် လ ၂၂ ရက်

အောက်ဖော်ပြပါ လျှောက်ထားသူထံမှ သက်ဆိုင်ရာလျှောက်ထားလွှာအတွက် ဖော်ပြပါ ဝန်ဆောင်ခအားလက်ခံပါရန်နှင့် ငွေရပြေစာမိတ္တူတစ်စောင်ကိုဌာနခွဲသို့ ပေးပို့ပေးပါရန် အကြောင်းကြား အပ်ပါသည်-

၁။ လျှောက်ထားသူ၏-

(က) အမည် မောင်နိုးနွယ်ကျော်

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ၁၂/ဗဟန(နိုင်)၀၅၅၇၃၉

(ဂ) နေရပ်လိပ်စာ/ တယ်လီဖုန်း တိုက်(၃၄)၊ အခန်း(၁၆)၊ မြဝတီမင်းကြီးရပ်၊ ဗဟန်းမြို့နယ်။
09-450028843

၂။ ရင်းနှီးမြှုပ်နှံသူ၏-

(က) အမည် Myanmar Electrical Business Group Public Company limited.

(ခ) ကုမ္ပဏီအမည် ………

(ဂ) လုပ်ငန်းအမျိုးအစား Manufacturing and Distribution of Porcelain and Polymer insulators for high voltage electrical applications.

၃။ ပေးသွင်းမည့်ဝန်ဆောင်ခနှင့်စပ်လျဉ်း၍-

(က) လျှောက်ထားလွှာ ပုံစံအမှတ် ပုံစံ-၂, ၇-က.

(ခ) ဝန်ဆောင်ခနှုန်းထား(ဂဏန်းဖြင့်)ကျပ် ၃၀၀,၀၀၀/-

(စာဖြင့်) ကျပ် သုံးသိန်းတိတိ

(ဂ) ငွေအမျိုးအစား (ကျပ်ဘက်ပါအတိုင်း)

*(သက်ဆိုင်ရာဌာနခွဲမှလက်မှတ်ထိုးပေးပါရန်)*

ငွေလက်ခံပေးပါရန် (signature) ဒေါ်ကေသီဆွေ

(ရင်းနှီးမြှုပ်နှံမှုဌာနခွဲ- ၂ / ကြီးကြပ်ရေးဌာနခွဲ)

(Stamp: ငွေသွင်းပြီး)

ကျပ် ၃၀၀,၀၀၀/- (ကျပ် သုံးသိန်း တိတိ) ကို လက်ခံရရှိပါသည်။

(signature) ၂၂.၆.၁၈

(signature)
ငွေစာရင်းဌာနစု

Form 10-3-2015

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏
လုပ်ငန်းစီမံကိန်းဆောင်ရွက်ရန်အဆိုပြုချက်

Myanmar Electrical Business Group Public
Company Limited

လျှပ်စစ်ဓါတ်သွယ်တန်းရာတွင် အသုံးပြုသော ကြွေသီးပိုလီမာ လျှပ်ကာပစ္စည်းများ

ဗို့အားမြင့် လိုင်းကာကွယ်ခြင်းနှင့်ထိန်းချုပ်ခြင်းဆိုင်ရာပစ္စည်းများထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း

ပုံစံ (၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံသူ၏အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ မေ လ၊ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် Myanmar Electrical Business Group Public Company Limited

(ခ) အဖအမည် ..................

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ..................
နိုင်ငံကူးလက်မှတ်အမှတ် -

(ဃ) နိုင်ငံသား ..................

(င) နေရပ်လိပ်စာ ..................
(၁) ပြည်တွင်း အမှတ်(၁၀၇)၊ (၉)လမ်း၊ ရန်ကုန်စက်မှုဇုန်၊ မင်္ဂလာဒုံ/ ဓကာမ္ဘာ၊ ရန်ကုန်တိုင်းဒေသကြီး။
(၂) ပြည်ပ -

(စ) တယ်လီဖုန်း/ ဖက်စ်/ 09-5105623

(ဆ) အီးမေးလ်လိပ်စာ ..................

(ဇ) ပင်မကုမ္ပဏီအမည် မြန်မာအီလက်ထရစ်ကယ် ဘစ်စနက်ဂရုပက်ဘလစ် ကုမ္ပဏီလီမိတက်

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ အမှတ်(၁၀၇)၊ (၉)လမ်း၊ ရန်ကုန်စက်မှုဇုန်၊ ဓကာမ္ဘာ၊ ရန်ကုန်တိုင်းဒေသကြီး။

(ည) လုပ်ငန်းအမျိုးအစား လျှပ်စစ်သွယ်တန်းရာတွင် အသုံးပြုသော ကြေးသီးပိုး၊ ပါဝါလျှပ်ကာပစ္စည်းများ ဗို့အားမြှင့် လိုင်းကာကွယ်ခြင်းနှင့် ထိန်းချုပ်ခြင်းဆိုင်ရာ မီးခလုတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့်သူများ၏ -

(က) အမည် ..................

(ခ) အဖအမည် ..................

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ..................
နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား ..................

(င) နေရပ်လိပ်စာ ..................
(၁) ပြည်တွင်း ..................

(၂) ပြည်ပ ............................................................
(စ) ပင်မကုမ္ပဏီအမည် ............................................................
(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ............................................................
............................................................

မှတ်ချက်။ အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲ တင်ပြ(
(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)
(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (
(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေ
ကြေးရေးဆိုင်ရာ အထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏-
(က) အမည် ............................................................
(ခ) ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည် ............................................................
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)
မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်
(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ............................................................
(ဃ) နိုင်ငံသား ............................................................
(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် ............................................................
နေရပ်လိပ်စာ ............................................................
(စ) တယ်လီဖုန်း/ ဖက်စ်/ ............................................................

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား လျှပ်စစ်သွယ်တန်းရာတွင် အသုံးပြုသော ကြေးသီးပိုလီမာ လျှပ်ကာပစ္စည်းများ စိုအားမြင့်လိုင်းကာကွယ်ခြင်းနှင့် ထိန်းချုပ်ခြင်းဆိုင်ရာ မိန်းခလုတ်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်
☐ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြ
☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့် ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာအမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု % |
|---|---|---|---|
| | အစုရှယ်ယာရှင်စုစုပေါင်း (၁၅) ဦးရှိပါ၍ | သီးခြားစာရွက်ဖြင့် တင်ပြထားပါသည်။ | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သော အချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ......... ၁၀၀,၀၀၀,၀၀၀,၀၀၀. ၀၀ (ကျပ်သန်းပေါင်းတစ်သိန်းတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား ......... "က" အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ .........
......... ၄,၆၀၀,၀၀၀,၀၀၀. ၀၀ (ကျပ်သန်းပေါင်းလေးထောင့်ခြောက်ရာတိတိ)

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲ တင်ပြရန်

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့် အချက်အလက်များ-

| | US $(သန်းပေါင်း) | ကျပ်(သန်းပေါင်း) |
|---|---|---|
| (က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း | ၈. ၉၀ | ၁၂,၀၁၉. ၆၄ |
| (ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း | ......... | ......... |
| စုစုပေါင်း | ၈. ၉၀ | ၁၂,၀၁၉. ၆၄ |

(ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့် အခြေအနေ/ယူဆောင်လာမည့်ကာလ
.........

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ ......... US $ ၈. ၉၀၃ သန်း / ကျပ် ၁၂,၀၁၉. ၆၄ သန်း

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း ကနဦး ၂၅ (နှစ်) နှင့် (၅) နှစ်သက်တမ်းတိုး(၂) ကြိမ်

(စ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း တည်ဆောက်မှုကာလ သို့မဟုတ် ပြင်ဆင်မှုကာလ ၂ (နှစ်)

မှတ်ချက်။ အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | နိုင်ငံခြားငွေ (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|
| (က) နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ) | ......... | ......... |
| (ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ......... | ......... |
| (ဂ) ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ......... | ......... |
| (ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ | ......... | |

ဝန်ကြီးဌာနသို့ တင်ပြ၍ ပြည်ထောင်စုရှေ့နေချုပ်ရုံးနှင့် အခြားဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက် ရယူခြင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြခြင်းများ ဆောင်ရွက်သွားရမည်ဖြစ်ပြီး အဆိုပါ ဌာနအဖွဲ့အစည်းများ၏ ဆုံးဖြတ်ချက်၊ ညွှန်ကြားချက်များကို နှစ်ဖက်စလုံးက လိုက်နာဆောင်ရွက်သွားရမည်။

ဥပဒေစိုးမိုးခြင်းနှင့်အငြင်းပွားမှုများဖြေရှင်းခြင်း

၁၅။ (က) ဥပဒေစိုးမိုးခြင်းနှင့်တရားစီရင်ခြင်း။ ဤ "ဆွေးနွေးသဘောတူညီမှုစာလွှာ" ပေါ်တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံမှ ပြဋ္ဌာန်းထားသော တည်ဆဲဥပဒေက စိုးမိုးစေရပါမည်။

(ခ) အငြင်းပွားမှုများကိုငြိမ်းချမ်းစွာဖြေရှင်းခြင်း။ ဤ"ဆွေးနွေးသဘောတူညီမှုစာလွှာ" နှင့် စပ်လျဉ်း၍ နှစ်ဖက်အဖွဲ့အစည်းတို့အကြား အငြင်းပွားမှုတစ်စုံတစ်ရာရှိလာခဲ့သော် (သို့မဟုတ်) ကျူးလွန်ချိုးဖောက်မှုတစ်စုံတစ်ရာရှိခဲ့သော် အဆိုပါကိစ္စရပ်အတွက် နှစ်ဖက်အဖွဲ့အစည်းတို့ တွေ့ဆုံ၍ ပြေလည်အောင် ညှိနှိုင်းဆွေးနွေး အဖြေထုတ်ကြရန် သဘောတူညီကြပါသည်။

ဤ"ဆွေးနွေးသဘောတူညီမှုစာလွှာ"ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော်တွင် ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၈)ရက်နေ့၌ ပုံစံတူပွား၍ လက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း(ကိုယ်စား) | MEB Group Co., Ltd. (ကိုယ်စား) |
| ၂၈.၂.၁၈ | |
| ခင်မာရီ | ဝင်းမြင့်သိန်း |
| ဦးဆောင်ညွှန်ကြားရေးမှူး | Managing Director |
| အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | ၁၂/ဥကမ(နိုင်)၀၆၇၁၆၆ |
| | MEB Group Co., Ltd |

ကန့်သတ်

၉

# အသိသက်သေများ

| | | | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - သန်းဆက် | အမည် | - သက်စံ |
| ရာထူး | - အထွေထွေမန်နေဂျာ(နည်းပညာ) | ရာထူး | - Vice Chairman |
| လိပ်စာ | - အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | မှတ်ပုံတင်အမှတ် | - ၁၂/ဒဂန(နိုင်)၀၀၀၂၀၈ |
| လက်မှတ် | - | လက်မှတ်- | |
| အမည် | - မာမာထွန်း | အမည် | - ရဲထွဋ်ရှိ |
| ရာထူး | - အထွေထွေမန်နေဂျာ(ဘဏ္ဍာရေး) | ရာထူး | - Director (Finance) |
| လိပ်စာ | - အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | မှတ်ပုံတင်အမှတ် | - ၁၂/ကတန(နိုင်)၀၀၂၆၁၇ |
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - အောင်ကျော်ဦး | အမည် | - ဦးထွန်းထွန်းမောင် |
| ရာထူး | - အထွေထွေမန်နေဂျာ(အုပ်ချုပ်ရေး) | ရာထူး | - Director |
| လိပ်စာ | - အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | မှတ်ပုံတင်အမှတ် | - ၇/ရတရ(နိုင်)၀၁၂၃၇၄ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၃၇-စမ(၁)၂၀၁၇-၂၀၁၈(၆၉၃၉)

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ [illegible] ရက်

အကြောင်းအရာ။ ဆွေးနွေးသဘောတူညီမှုစာလွှာ (AoD) လက်မှတ်ရေးထိုးခွင့်ပြုရေးကိစ္စ

ရည်ညွှန်းချက်။ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၏ ၁၅.၂.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ၁၅၀၃/၂/နည်း-၁၁/၉၈၅/၂၀၁၈

၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ်(၆/၂၀၁၈)၏ ဆုံးဖြတ်ချက်အရ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်)ကို Myanmar Electrical Business Group Public Co., Ltd. သို့ နှစ်ရှည်ငှားရမ်းနိုင်ရေး စာချုပ်ချုပ်ဆိုရန် လုပ်ငန်းစဉ်များဆောင် ရွက်နေစဉ်ကာလအတွင်း ကြိုတင်ပြုလုပ်ထားရန်ရှိသော ကိစ္စရပ်များဆောင်ရွက်နိုင်ရေးအတွက် (၆)လသက်တမ်းရှိသည့် ဆွေးနွေးသဘောတူညီမှုစာလွှာ (AoD) အား ၂၈.၂.၂၀၁၈ ရက်နေ့တွင် လက်မှတ်ရေးထိုးရန် သဘောတူကြောင်းနှင့် လုပ်ငန်းများ မြန်မြန်ဆန်ဆန် ပြီးပြတ်အောင်ဆောင် ရွက်သွားရန် အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ထွန်းမြင့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

ဦးဆောင်ညွှန်ကြားရေးမှူး

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

မိတ္တူကို

မူဝါဒနှင့်ဥပဒေလုပ်ထုံးလုပ်နည်းစိစစ်ရေးနှင့်လုပ်ငန်းစစ်ဆေးရေးဌာနခွဲ

ပန်ကြီးရုံး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅- စမ(၂)၂၀၁၇- ၂၀၁၈ ( ၃၀၀၉ )

ရက် စွဲ၊ ၂၀၁၈ ခုနှစ် ၊ ဖေဖော်ဝါရီလ ၆ ရက်

အကြောင်းအရာ။ အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်)အား Myanmar Electrical Business Group Public Co.,Ltd. သို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

၁။ အမှတ် ( ၂ ) အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ် ( ၃၅ ) အကြီးစားစက်ရုံ ( ချောက် ) အား Myanmar Electrical Business Group Public Co.,Ltd. သို့ တစ်နှစ်လျှင် ငှားရမ်းခငွေ ကျပ် ( ၁၇၂.၀၀၀ ) သန်း၊ တစ်လလျှင် ငွေကျပ် ( ၁၄.၃၃၃ ) သန်းဖြင့် ( ၂၅ + ၅ + ၅ ) နှစ် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြခဲ့ခြင်းနှင့်စပ်လျဉ်း၍ ၃၀.၁.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၈) မှ ဆောင်ရွက်ရန် သဘောတူခွင့်ပြုခဲ့ပါသဖြင့် သိရှိဆောင်ရွက်နိုင်ပါရန် ၎င်းအမှာစာမိတ္တူကို ပူးတွဲပေးပို့ပါသည်။

၂။ သို့ပါ၍ အမှတ် ( ၂ ) အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ်( ၃၅ )အကြီးစားစက်ရုံ ( ချောက် ) အား Myanmar Electrical Business Group Public Co.,Ltd. သို့ ငှားရမ်းမည့် သဘောတူစာချုပ်(မူကြမ်း)ကို သက်ဆိုင်ရာဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက်များ ရရှိပါက သဘောထားမှတ်ချက်များအတိုင်း ပြင်ဆင်ပြုစုပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ပေးပို့နိုင်ရေးအတွက် ဝန်ကြီးရုံးသို့ ဆောလျင်စွာ တင်ပြရန် အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ထွန်းမြင့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

ဦးဆောင်ညွှန်ကြားရေးမှူး

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စီးပွားရေးရာဌာနကြီး

စာအမှတ်၊ ၁ (၁/ ၄ဗြ ) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၁၀ ရက်

သို့

စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ ငှားရမ်းဆောင်ရွက်ခွင့်ကိစ္စ

ရည်ညွှန်း ချက်။ (၁) ယင်း၏ ၁၄-၁၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ၁၅-စမ(၂)၂၀၁၇-၂၀၁၈(၂၁၆၁)

(၂) စီးပွားရေးရာကော်မတီ၏ ၂၁-၁၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ စီးပွားကော်မတီ/ အစိုးရအဖွဲ့ ( ၁၇၇ / ၂၀၁၇ )

အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ် (၃၅) အကြီးစားစက်ရုံ (ချောက်) အား Myanmar Electrical Business Group Public Co.,Ltd. သို့ တစ်နှစ်ငှားရမ်းခ ငွေကျပ် ၁၇၂ သန်းဖြင့် နှစ်ရှည် (၂၅+၅+၅) နှစ် ငှားရမ်းဆောင်ရွက်ခွင့်ပြုရေးအတွက် စီးပွားရေးရာကော်မတီ အစည်းအဝေး အမှတ်စဉ် (၁၉/၂၀၁၇) သို့ ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြမှုနှင့်စပ်လျဉ်း၍ လုပ်ထုံးလုပ်နည်းနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ဇရတ်ဆင်း

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

နိုင်ငံတော်သမ္မတရုံး

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

စီးပွားရေးရာကော်မတီ

နိုင်ငံတော်အတိုင်ပင်ခံရုံးဝန်ကြီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုအစိုးရအဖွဲ့

စီးပွားရေးရာကော်မတီ

စာအမှတ်၊ စီးပွားကော်မတီ/အစိုးရအဖွဲ့(၁၇၆/၂၀၁၇)

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်

သို့

နိုင်ငံတော်သမ္မတရုံး၊ စီးပွားရေးရာဌာနကြီး

အကြောင်းအရာ။ စီးပွားရေးရာကော်မတီ ( ၁၉/ ၂၀၁၇ ) ၏ အမှာစာ ကောက်နုတ်ချက် တင်ပြခြင်းကိစ္စ

၁။ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၇)ကို ၁၄-၁၂-၂၀၁၇ ရက်နေ့ (ကြာသပတေးနေ့)တွင် နိုင်ငံတော်သမ္မတအိမ်တော် (ဘီ)ဆောင်၊ သမ္မတရုံးဝန်ကြီးဌာန အစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်ခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေး၌ ဆွေးနွေးခဲ့သည့် အကြောင်းအရာများ၏ ကောက်နုတ်ချက်များကို သိရှိနိုင်ပါရန် ပူးတွဲပါဖြင့် တင်ပြအပ်ပါသည်။

18.12.17

အတွင်းရေးမှူး

စီးပွားရေးရာကော်မတီ

မိတ္တူကို -

နိုင်ငံခြားရေးဝန်ကြီးဌာန

သမ္မတရုံးဝန်ကြီးဌာန

ပြည်ထဲရေးဝန်ကြီးဌာန

[illegible]ရေးဝန်ကြီးဌာန

သာသနာရေးနှင့်ယဉ်ကျေးမှုဝန်ကြီးဌာန

[illegible]ျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

[illegible]ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

[illegible]သဘာနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

[illegible]နှင့်စွမ်းအင်ဝန်ကြီးဌာန

[illegible]မှုဝန်ကြီးဌာန

[illegible]ပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ပညာရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

လူမှုဝန်ထမ်း၊ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဧရာဝတီ၊ ပဲခူး၊ ...

ရှမ်းပြည်နယ်အစိုးရအဖွဲ့

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

ရုံးလက်ခံ/မျှောစာတွဲ

| | အကြောင်းအရာ | ဆောင်ရွက်လိုသည့်ကိစ္စ | [illegible] |
|---|---|---|---|
| [illegible]။ | [illegible]စက်ရုံခွဲ(အင်းစိန်) ရှိ [illegible]အဆောက်အအုံများအား သက်တမ်း [illegible] ငှားရမ်းခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ။<br>(စက်မှုဝန်ကြီးဌာန) | ငှားရမ်းခွင့်<br>မြေ(၃.၄၇)ဧကနှင့် အဆောက်အဦ United Pacific Co.,Ltd. သို့ (၁)နှစ်ငှားရမ်းခငွေကျပ် (၂၄၈.၀၀၀)သန်း (၂၅+၅+၅) နှစ် | သဘောတူပါသည်။ |
| ၁၇။ | အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်)အား Myanmar Electrical Business Group Public Co.,Ltd. သို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန်တင်ပြခြင်းကိစ္စ။<br>(စက်မှုဝန်ကြီးဌာန) | ငှားရမ်းခွင့်<br>တစ်နှစ်လျှင် ငှားရမ်းခငွေ ကျပ်(၁၇၂.၀၀၀)သန်းဖြင့် (၂၅+၅+၅)နှစ် | ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြ ဆောင်ရွက်သွားရန် ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုအစိုးရအဖွဲ့

စီးပွားရေးရာကော်မတီ

စာအမှတ်၊ စီးပွားကော်မတီ/အစိုးရအဖွဲ့(၁၅၉/၂၀၁၇)

ရက်စွဲ၊ ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၂၂ ရက်

သို့

နိုင်ငံတော်သမ္မတရုံး၊ စီးပွားရေးရာဌာနကြီး

အကြောင်းအရာ။ စီးပွားရေးရာကော်မတီ ( ၁၇/ ၂၀၁၇ ) ၏ အမှာစာ ကောက်နုတ်ချက် တင်ပြခြင်းကိစ္စ

၁။ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၇/၂၀၁၇)ကို ၁၉-၁၀-၂၀၁၇ ရက်နေ့ (ကြာသပတေးနေ့)တွင် နိုင်ငံတော်သမ္မတအိမ်တော် (ဘီ)ဆောင်၊ သမ္မတရုံးဝန်ကြီးဌာန အစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်ခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေး၌ ဆွေးနွေးခဲ့သည့် အကြောင်းအရာများ၏ ကောက်နုတ်ချက်များကို သိရှိနိုင်ပါရန် ပူးတွဲပါဇယားဖြင့် တင်ပြအပ်ပါသည်။

21.10.17

အတွင်းရေးမှူး

စီးပွားရေးရာကော်မတီ

မိတ္တူကို

သမ္မတရုံးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

နေပြည်တော်စည်ပင်သာယာရေးကော်မတီ

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

ရုံးလက်ခံ/မျှောစာတွဲ

| စဉ် | ဝန်ကြီးဌာန | အကြောင်းအရာ | ဆောင်ရွက်လိုသည့်ကိစ္စ | [illegible] |
| --- | --- | --- | --- | --- |
| ၉။ | စက်မှုဝန်ကြီးဌာန | အမှတ်(၃၅) အကြီးစားစက်ရုံ (ချောက်)အား Myanmar Electrical Business Group Public Co.,Ltd. သို့ ငှားရမ်း ဆောင်ရွက်ခွင့် ပြုနိုင်ပါရန် တင်ပြခြင်းကိစ္စ။ | ငှားရမ်းခွင့်<br>Myanmar Electrical Business Group Public Co.,Ltd.<br>တစ်နှစ်ငှားရမ်းခ<br>ငွေ ကျပ် (၁၇၂,၀၀၀) သန်း<br>(၂၅+၅+၅) နှစ် | [illegible]<br>ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၁၅- စမ(၂)၂၀၁၇- ၂၀၁၈ ( ၃၀၀၉ .
ရက် စွဲ၊ ၂၀၁၈ ခုနှစ် ၊ ဖေဖော်ဝါရီလ ၉ ရက်

အကြောင်းအရာ။ အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်)အား Myanmar Electrical Business Group Public Co.,Ltd. သို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

၁။ အမှတ် ( ၂ ) အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ် ( ၃၅ ) အကြီးစားစက်ရုံ ( ချောက် ) အား Myanmar Electrical Business Group Public Co.,Ltd. သို့ တစ်နှစ်လျှင် ငှားရမ်းခ ကျပ် ( ၁၇၂.၀၀၀ ) သန်း၊ တစ်လလျှင် ငွေကျပ် ( ၁၄.၃၃၃ ) သန်းဖြင့် ( ၂၅ + ၅ + ၅ ) နှစ် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြခဲ့ခြင်းနှင့်စပ်လျဉ်း၍ ၃၀.၁.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၈) မှ ဆောင်ရွက်ရန် သဘောတူခွင့်ပြုခဲ့ပါသဖြင့် သိရှိဆောင်ရွက်နိုင်ပါရန် ၎င်းအမှာစာမိတ္တူကို ပူးတွဲပေးပို့ပါသည်။

၂။ သို့ပါ၍ အမှတ် ( ၂ ) အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ်( ၃၅ )အကြီးစားစက်ရုံ ( ချောက် ) အား Myanmar Electrical Business Group Public Co.,Ltd. သို့ ငှားရမ်းမည့် သဘောတူစာချုပ်(မူကြမ်း)ကို သက်ဆိုင်ရာဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက်များ ရရှိပါက သဘောထားမှတ်ချက်များအတိုင်း ပြင်ဆင်ပြုစုပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ပေးပို့နိုင်ရေးအတွက် ဝန်ကြီးရုံးသို့ အလျင်အမြန် တင်ပြရန် အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ထွန်းမြင့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

ကန့်သတ်

အခွန်တော်တံဆိပ်ခေါင်းကပ်ရန်

**စက်မှုဝန်ကြီးဌာန**
**အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း**
**နှင့်**
MYANMAR ELECTRICAL BUSINESS GROUP PUBLIC CO., LTD.
**တို့အကြား**
**အမှတ် (၃၅) အကြီးစားစက်ရုံ (ချောက်) ရှိ**
**မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအား ငှားရမ်းသည့်သဘောတူစာချုပ်(မူကြမ်း)**

ဤငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော်၌ ၂၀၁၈ ခုနှစ်............ လ(    )ရက်နေ့တွင် ဦးစိုးလွင်၊ ခေတ္တဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော "အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း"၊ စက်မှုဝန်ကြီးဌာန၊ (ဤမှနောင်တွင် "အငှားချထားသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) က တစ်ဖက်

နှင့်

ဦးဝင်းမြင့်သိန်း (Managing Director) ၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်၊ ၁၂/ဥကမ(နိုင်) ဝ၆၇၁၆၁ ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်း ထားသည့် MYANMAR ELECTRICAL BUSINESS GROUP PUBLIC CO., LTD. ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်စက်မှုဇုန်၊ ဇေကမ္ဘာ၊ အမှတ်(၁၀၇)၊ (၉)လမ်း၊ (ဤမှနောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ ၎င်း၏ဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါအချက်များအတိုင်း နှစ်ဦးသဘောတူစာချုပ် ချုပ်ဆိုကြပါသည်။

## ခွင့်ပြုချက်

၁။ (၃၀.၁.၂၀၁၈)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်(၂/၂၀၁၈)၊ (၁၄.၁၂.၂၀၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်သော စီးပွားရေးရာကော်မတီ၏အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၇)နှင့် (၉.၁၁.၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၆-၂၀၁၇)တို့၏ ခွင့်ပြုချက်အရ စာချုပ် ချုပ်ဆို ဆောင်ရွက်ခြင်း ဖြစ်ပါသည်။

## လုပ်ငန်းအစီအစဉ်

၂။ "အငှားချထားခြင်းခံရသူ"မှ အမှတ် (၃၅) အကြီးစားစက်ရုံ(ချောက်)ကို ငှားရမ်း၍ ကြွေသီးအမျိုးမျိုးနှင့် အခြားလျှပ်စစ်နှင့် သက်ဆိုင်သောဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများကို ဆောင်ရွက်မည် ဖြစ်ပါသည်။

## ရည်ရွယ်ချက်

၃။ "အငှားချထားသူ" ပိုင်ဆိုင်သော မကွေးတိုင်းဒေသကြီး၊ ချောက်မြို့၏ အနောက်တောင်ဘက် (၄) မိုင် အကွာ၊ ရေတွင်းကျေးရွာအနီးရှိ အမှတ် (၃၅) အကြီးစားစက်ရုံ (ချောက်)ကို "အငှားချထားခြင်းခံရသူ"မှ စာချုပ်ပါ စည်းမျဉ်းစည်းကမ်း၊ သဘောတူညီချက်များကို လိုက်နာလျက် လုပ်ငန်းအစီအစဉ်ပါ လုပ်ငန်းများကို နိုင်ငံခြား(သို့မဟုတ်)ပြည်တွင်းအဖွဲ့အစည်းများနှင့် ပူးပေါင်းဆောင်ရွက်နိုင်ရန် ရည်ရွယ်၍ စာချုပ်ချုပ်ဆိုခြင်း ဖြစ်ပါသည်။

၄။ နိုင်ငံတော်၏ လျှပ်စစ်ကဏ္ဍအတွက် လိုအပ်သော အဆင့်မြင့်ဗို့အားမြင့်ကြွေသီးများကို နည်းပညာမြင့်တင်ပြီး အရည်အသွေးမီ ထုတ်လုပ်နိုင်မည်ဖြစ်ပါသဖြင့် ပြည်ပသွင်းကုန် အစားထိုး၍ နိုင်ငံခြားသုံးငွေ လျော့နည်းသက်သာစေသည့် အကျိုးကျေးဇူးကို ရရှိစေမည်ဖြစ်ပါသည်။ နိုင်ငံတော်ဖွံ့ဖြိုးမှုနှင့်အတူ နယ်မြေအတွင်း လုပ်သားပြည်သူများ၏ အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်နှင့် စက်ရုံဝန်ထမ်းများကို နည်းပညာကျွမ်းကျင်မှုများ မြှင့်တင်ပေးရန် ရည်ရွယ်၍ စာချုပ် ချုပ်ဆိုခြင်း ဖြစ်ပါသည်။

## အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၅။ "အငှားချထားသူ"သည် နောက်ဆက်တွဲများတွင် အသေးစိတ်ဖော်ပြထားသော အမှတ် (၃၅) အကြီးစားစက်ရုံ(ချောက်)၏ မြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းများနှင့် အခြားပုံသေပိုင်ပစ္စည်းများကို တရားဝင်ပိုင်ဆိုင်သူဖြစ်ပြီး "အငှားချထားခြင်းခံရသူ"သည် စာချုပ်ကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးနှင့်နည်းပညာပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းများကို စာချုပ်ပါစည်းကမ်းချက်များအတိုင်း လိုက်နာလျက် လုပ်ကိုင်ခွင့်ရှိသူ ဖြစ်သည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်းကို အသီးသီး အာမခံကြပါသည်။

**အငှားချထားသည့်ပစ္စည်းများ**

၆။ "အငှားချထားခြင်းခံရသူ"သည် တစ်ဖက်ဖော်ပြပါ "အငှားချထားသူ"ပိုင် အမှတ် (၃၅) အကြီးစားစက်ရုံ (ချောက်)၏ မြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းများနှင့် အခြား ပုံသေပိုင်ပစ္စည်းများကို ငှားရမ်း၍ ကြွေသီးအမျိုးမျိုးနှင့် အခြားလျှပ်စစ်နှင့် သက်ဆိုင်သော ဆက်စပ်ပစ္စည်းများကို ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းများနှင့် အခြားစက်မှုလုပ်ငန်းများလည်း တိုးချဲ့ဆောင်ရွက် မည်ဖြစ်ပါသည် -

| | | | |
|---|---|---|---|
| (က) | စက်ရုံတည်နေရာ | - | အမှတ် (၃၅) အကြီးစားစက်ရုံ (ချောက်) မကွေးတိုင်းဒေသကြီး၊ ချောက်မြို့၏ အနောက်တောင်ဘက် (၄)မိုင်အကွာ၊ ရေတွင်းကျေးရွာအနီး။ |
| (ခ) | သုံးစွဲခွင့်ပြုမည့်မြေ ဧရိယာ(ဧက) | - | (၁၆၇.၉၂) ဧက **နောက်ဆက်တွဲ(က)** |
| | - ပင်မစက်ရုံမြေနေရာ | - | ၁၈.၁၂ ဧက |
| | - မြေလွတ်မြေနေရာ | - | ၁၄၉.၈၀ ဧက |
| (ဂ) | အဆောက်အဦများ | - | **နောက်ဆက်တွဲ (ခ - ၁)** |
| (ဃ) | စက်ပစ္စည်းများ | - | **နောက်ဆက်တွဲ (ခ - ၂)** |
| (င) | ယာဉ်ယန္တရားများ | - | **နောက်ဆက်တွဲ (ခ - ၃)** |
| (စ) | ရုံးသုံးပရိဘောဂများ | - | **နောက်ဆက်တွဲ (ခ - ၄)** |
| (ဆ) | တည်နေရာပြပုံ | - | **နောက်ဆက်တွဲ (င)** |

**စာချုပ်အကျိုးသက်ရောက်သည့်နေ့**

၇။ စာချုပ်အကျိုးသက်ရောက်သည့်နေ့ကို ဘဏ်အာမခံ( Performance Bank Guarantee ) ပေးသွင်းပြီးနောက် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့ လက်မှတ်ရေးထိုးသည့်နေ့မှစ၍ သတ်မှတ်ရမည်။

**ငှားရမ်းမည့်အချိန်ကာလ**

၈။ စက်ရုံငှားရမ်းအချိန်ကာလမှာ စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ (၂၅)နှစ် ဖြစ်ပါသည်။

**စာချုပ်သက်တမ်း**

၉။ စာချုပ်သက်တမ်းသည် စာချုပ်အကျိုးသက်ရောက်သည့်နေ့မှ (၂၅)နှစ် ဖြစ်သည်။ စာချုပ်သက်တမ်းတိုးခြင်းကို နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး၏ အတည်ပြုချက်ရယူ၍ တစ်ကြိမ်လျှင်(၅)နှစ် သက်တမ်းဖြင့် ၂ ကြိမ် တိုးမြှင့်နိုင်သည်။ သက်တမ်းတိုးခြင်းမပြုမီ ပြီးခဲ့သည့်စာချုပ်သက်တမ်းအပေါ် နှစ်ဦးနှစ်ဖက် ညှိနှိုင်း သုံးသပ်ရမည်။

**ရင်းနှီးမြှုပ်နှံမှုပမာဏ**

၁၀။ "အငှားချထားခြင်းခံရသူ" ဘက်မှ ရင်းနှီးမြှုပ်နှံမှုပမာဏအဖြစ် စက်ပိုင်းဆိုင်ရာ မြှင့်တင်ခြင်း၊ တိုးချဲ့ခြင်း အစီအစဉ်များအတွက် ကနဦးရင်းနှီးမြှုပ်နှံမှုမှာ ငွေကျပ် ၄,၆၀၀ သန်း ဖြစ်ပါသည်။ ၎င်းရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်သောကိစ္စရပ်များ၊ စာရင်းဇယားများကို "အငှားချထားသူ" သို့ စနစ်တကျ အသိပေးထားရမည်။ "အငှားချထားခြင်းခံရသူ"၏ ရင်းနှီးမြှုပ်နှံမှုကို တည်ဆဲမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်သွား ပါမည်။

**ဝန်ထမ်းရေးရာစည်းကမ်းသတ်မှတ်ချက်များနှင့်အညီ လွှဲပြောင်းပေးမည့်ဝန်ထမ်းများ**

၁၁။ "အငှားချထားသူ"မှ "အငှားချထားခြင်းခံရသူ"သို့ လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ (၁၅၉) ဦး ဖြစ်ပါသည်။ အသေးစိတ်စာရင်းကို **နောက်ဆက်တွဲ(ဂ)** ဖြင့် ဖော်ပြထားသည်။ ဝန်ထမ်းရေးရာများနှင့် စပ်လျဉ်း၍ နိုင်ငံတော်၏ တည်ဆဲနိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေများနှင့်အညီ နှစ်ဖက်ညှိနှိုင်း ဆောင်ရွက်သွားရမည်။

**ဝန်ထမ်းရေးရာစည်းကမ်းသတ်မှတ်ချက်များ**

၁၂။ လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့် ပတ်သက်၍ "အငှားချထားခြင်းခံရသူ"မှ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည် -

(က) ဝန်ထမ်းများ၏ လစာ၊ နှစ်တိုး၊ စရိတ် များကို နိုင်ငံတော်မှ သတ်မှတ်ခွင့်ပြု နှုန်းထားများအတိုင်း "အငှားချထားခြင်းခံရသူ"မှ လ၏ နောက်ဆုံးရက် (သို့မဟုတ်) ယင်းနောက်ဆုံးရက်သည် ပိတ်ရက်ဖြစ်ပါက ပိတ်ရက်မတိုင်မီ ရက်တွင် မပျက်မကွက် (မပျက်မကွက်) ထုတ်ပေးရမည်။ ဝန်ထမ်းများ၏ အကျိုးငှာနိုင်ငံတော်မှ ထောက်ပံ့ပေးသော စရိတ်များအပြင် သက်သာချောင်ချိရေးကိစ္စများ၊ ရပိုင်ခွင့်များ၊ အကျိုးခံစားခွင့်များ၊ ဆုကြေးများနှင့် အခြားသောစရိတ်များကိုလည်း "အငှားချထားခြင်းခံရသူ"က သင့်လျော်သလို ဆောင်ရွက်ပေးရမည်။ ဝန်ထမ်းများအတွက် ပင်စင်ထည့်ဝင်ကြေး၊ အလုပ်ရှင်က ပေးဆောင်ရမည့် လူမှုဖူလုံရေးထည့်ဝင်ကြေးနှင့် အလုပ်သမားက ပေးဆောင်ရမည့် လူမှုဖူလုံရေးထည့်ဝင်ကြေးကို "အငှားချထားခြင်းခံရသူ"က တာဝန်ယူ၍ သတ်မှတ်ထားသည့် နှုန်းထားအတိုင်း လစဉ် မပျက်မကွက် (မပျက်မကွက်) ပုံမှန်ထည့်ဝင်ရမည်။ ဝန်ထမ်းများ၏ပင်စင်ကိစ္စမှု "အငှားချထားသူ" က နိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ပေးရမည်။

(ခ) နိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ရာထူးတိုးမြှင့်ခန့်ထားခြင်း၊ နှစ်တိုးလစာ ချီးမြှင့်ခြင်းခံရသည့် ဝန်ထမ်းများအတွက် ရာထူးတိုးမြှင့်လစာနှင့် နှစ်တိုးလစာကို "အငှားချထားခြင်းခံရသူ"က မဖြစ်မနေ ပေးရမည်။ နိုင်ငံတော်မှ ဝန်ထမ်းများ၏ လစာနှုန်းထား၊ ထောက်ပံ့ကြေးနှင့် ခံစား

ခွင့်များကို အခါအားလျော်စွာ တိုးမြှင့်ပေးခဲ့ပါ က သတ်မှတ်ခံစားခွင့်ရရှိမည့်နှုန်းထား၊ အခွင့်အရေးများအတိုင်း တိုးမြှင့်လစာ၊ အပိုထောက်ပံ့ကြေးနှင့် ခံစားခွင့်များကို ရရှိခံစားစေရမည်။

(ဂ) ဝန်ထမ်းများ၏ အခြားဝန်ကြီးဌာန/ အဖွဲ့အစည်းများသို့ လည်းကောင်း၊ ဝန်ကြီးဌာနအတွင်းရှိ အခြားဌာန/ လုပ်ငန်း/စက်ရုံများသို့ လည်းကောင်း၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုအောက်ရှိ ရုံးချုပ်နှင့် စက်ရုံ/အလုပ်ရုံများသို့ လည်းကောင်း၊ ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်းကို လိုအပ်ချက်နှင့်အညီ "အငှားချထားသူ"၏ စီမံခန့်ခွဲမှုဖြင့် ဆောင်ရွက်နိုင်ပြီး စက်ရုံအတွင်း ပြောင်းရွှေ့တာဝန် ပေးအပ်မှုကိုမူ "အငှားချထားခြင်းခံရသူ"က သင့်လျော်သလို စီမံနိုင်သည်။သို့ရာတွင် ဝန်ထမ်းအားအပြစ်ပေးသည့်သဘော၊ နစ်နာစေလိုသည့်သဘော သက်ရောက်သည့် ပြောင်းရွှေ့တာဝန်ပေးအပ်မှုများကို လုံးဝ(လုံးဝ) မပြုလုပ်ရ။ ဝန်ထမ်းများ၏ ဆန္ဒအပေါ်မူတည်၍ ကုမ္ပဏီဝန်ထမ်းအဖြစ် ထမ်းဆောင်လိုသူ၊ နိုင်ငံ့ဝန်ထမ်းအဖြစ်ထမ်းဆောင်လိုသူတို့ကို တည်ဆဲနိုင်ငံ့ဝန်ထမ်းနည်းဥပဒေများအတိုင်း အချိန်ကာလတစ်ခုတွင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်သွားမည်။

(ဃ) "အငှားချထားခြင်းခံရသူ"သည် စက်ရုံတွင် လက်ရှိတာဝန်ထမ်းဆောင်နေသည့် ဝန်ထမ်းများအား နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် လုပ်ငန်းတာဝန်များကို ဆက်လက် တာဝန်ပေးအပ်ရမည်။ ကုမ္ပဏီတွင် ဆက်လက် တာဝန်ထမ်းဆောင်မည့် ဝန်ထမ်းများသည် နိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေများပါ တာဝန်နှင့် အခွင့်အရေးများ၊ ဝန်ထမ်းစည်းကမ်း ထိန်းသိမ်းရေးဆိုင်ရာ အခြေခံမူများ၊ ဝန်ထမ်းစည်းကမ်းဆိုင်ရာပြစ်မှုများ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ငန်းခွင်စည်းကမ်းများအပြင် ကုမ္ပဏီမှ ချမှတ်ထားသည့် စည်းကမ်းချက်များကို လိုက်နာရမည်။ ကုမ္ပဏီစည်းကမ်းဆိုသည်မှာ ဝန်ထမ်းနှင့် အလုပ်ရှင်ညှိနှိုင်း၍ သဘောတူညီထားသည့် စည်းကမ်းချက်များဖြစ်ပြီး၊ ၎င်းစည်းကမ်းချက်များကို သက်ဆိုင်ရာ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းမှ တစ်ဆင့်စိစစ်၍ စက်မှုဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူထားရမည်။

(င) ဝန်ထမ်းများ၏ ဝန်ထမ်းရေးရာကိစ္စရပ်များအား နစ်နာမှုမရှိစေရေးအတွက် တည်ဆဲနိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေများပါ ပြဋ္ဌာန်းသတ်မှတ်ချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(စ) စက်ရုံလွှဲပြောင်းပေးရာ၌ ပါရှိသော ဝန်ထမ်းများအနက် အလုပ်မှ နုတ်ထွက်လိုသည့်ဝန်ထမ်း၊ နှစ်ပြည့်/ လျှော့ပေါ့ပင်စင်ခံစားလိုသည့်ဝန်ထမ်းနှင့် သက်ပြည့်ပင်စင်ခံစားမည့်ဝန်ထမ်းများရှိပါကလည်းကောင်း၊ တည်ဆဲနိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်း

နည်းဥပဒေများပါ ပြဋ္ဌာန်းထားသည့် ဝန်ထမ်းတစ်ဦး လိုက်နာဆောင်ရွက်ရမည့် တာဝန်များ၊ ဝန်ထမ်းစည်းကမ်းထိန်းသိမ်းရေးဆိုင်ရာ အခြေခံမူများ၊ ဝန်ထမ်း စည်းကမ်းဆိုင်ရာ ပြစ်မှုများကို ဖောက်ဖျက်ကျူးလွန်သူများ၊ တည်ဆဲရာဇဝတ်မှု ဆိုင်ရာ ပြစ်မှုများ ဖောက်ဖျက်ကျူးလွန်သူများရှိပါက လည်းကောင်း "အငှားချ ထားသူ"ထံ တင်ပြပြီး "အငှားချထားသူ"မှ (၂) လ အတွင်း စိစစ်အရေးယူ ဆောင်ရွက် ပေးရမည်။

(ဆ) ဝန်ထမ်းများ လုပ်ငန်းခွင်ဆိုင်ရာ ရောဂါရရှိမှု၊ လုပ်ငန်းခွင် မတော်တဆ ထိခိုက်မှု၊ ကိုယ်အင်္ဂါအစိတ်အပိုင်း ချို့ယွင်းဆုံးရှုံးမှုနှင့် သေဆုံးမှုတို့ ဖြစ်ပွားပါက ဝန်ထမ်းများ ၏ လူမှုဖူလုံရေးဆိုင်ရာ အကျိုးခံစားခွင့်များရရှိရေးအတွက် ၂၀၁၂ ခုနှစ်၊ လူမှုဖူလုံ ရေးဥပဒေနှင့် နည်းဥပဒေများအရလည်းကောင်း၊ အလုပ်သမားဥပဒေများပါ အကျိုး ခံစားခွင့်များ ရရှိစေရေးအတွက် တည်ဆဲအလုပ်သမားဥပဒေ၊ နည်းဥပဒေများအရ လည်းကောင်း၊ "အငှားချထားခြင်းခံရသူ"က တာဝန်ယူဆောင်ရွက်ပေးရမည့်အပြင် လိုအပ်သော ပံ့ပိုးကူညီထောက်ပံ့မှုများကိုလည်း ပြုလုပ်ပေးရမည်။

(ဇ) ဝန်ထမ်းများ၏ ရာထူးအနွယ်ပိုင်ဆိုင်ခွင့် (Lien) ကို ဆက်လက်ထိန်းသိမ်းထားပြီး၊ သတ်မှတ်အရည်အချင်း ပြည့်မီသူများအား စွမ်းဆောင်ရည်နှင့် လုပ်ငန်းကျွမ်းကျင်မှု အပေါ်မူတည်၍ ဉာဏ်စာချုပ်အရ ဖွဲ့စည်းထားသည့် စီမံခန့်ခွဲရေးအဖွဲ့၏ စိစစ်ချက်ဖြင့် နိုင်ငံ့ဝန်ထမ်းဥပဒေ "အခန်း(၄)ရာထူးတိုးမြှင့်ခြင်း"ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ရာထူးတိုးမြှင့်ခန့်ထားရန် အမှတ်အများအနည်းအလိုက် တန်းစီဇယားများကို ရေး ဆွဲပြီး စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြအတည်ပြုချက် ရယူ ထားရမည်။ ဝန်ကြီးဌာနမှ ရာထူးတိုးမြှင့်ခန့်ထားရေးကိစ္စရပ်များ ဆောင်ရွက်ချိန် တွင် စီမံခန့်ခွဲရေးအဖွဲ့၏ စိစစ်ထောက်ခံချက်ဖြင့် ရာထူးတိုးမြှင့်ခန့်ထားပေးရန် သင့်လျော်သည့် ဝန်ထမ်းစာရင်းကို အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်းမှ တစ်ဆင့် ဝန်ကြီးဌာနသို့ တင်ပြရမည်။

(ဈ) ဝန်ထမ်းများအား လုပ်ငန်းခွင်နှင့်သက်ဆိုင်သည့် ပြည်တွင်း/ ပြည်ပသင်တန်းများ၊ ဆွေးနွေးပွဲနှင့် ကျွမ်းကျင်မှုဆိုင်ရာ သင်တန်းများ၊ ဆွေးနွေးပွဲများသို့ စေလွှတ် တက် ရောက်၍ သင်ကြားခွင့်ပြုရမည်။

(ည) စက်ရုံရှိ အရာရှိရိပ်သာနှင့် ဝန်ထမ်းအိမ်ရာများအား လက်ရှိအတိုင်း ဆက်လက် နေထိုင်ခွင့် ပြုရမည်။ ဝန်ထမ်းအိမ်ရာများကို ဝန်ထမ်းများ အဆင်ပြေစွာ နေထိုင်နိုင် ရေး အတွက် လိုအပ်ချက်များနှင့်အညီ ပြုပြင်မွမ်းမံပေးရမည်။ စက်ရုံအတွင်း/အပြင်၊ လမ်းဘေး ဝဲ/ယာများနှင့် ဝန်ထမ်းအိမ်ရာများ စိမ်းလန်းစိုပြည် သာယာလှပစေရေး အတွက် ထိန်းသိမ်းစိုက်ပျိုး ဆောင်ရွက်ရမည်။

(ဍ) ဝန်ထမ်းများအား ၎င်းတို့၏ ရာထူးအဆင့်နှင့် လျော်ညီသော ရပိုင်ခွင့်၊ ရာထူးအဆင့်နှင့် လျော်ညီသော တာဝန်ဝတ္တရားများကို ပေးအပ်တာဝန် ထမ်းဆောင်စေရမည်။

(ဎ) အငှားချထားသည့်စက်ရုံနှင့် စက်ရုံဝင်းအတွင်းရှိ မြေလွတ်များ၌ ထပ်မံတည်ဆောက် အကောင်အထည်ဖော်မည့် စက်မှုလုပ်ငန်းများတွင် စက်ရုံဝန်ထမ်းများကို ၎င်းတို့၏ ပညာအရည်အချင်းနှင့် ကျွမ်းကျင်မှုတို့အပေါ်မူတည်၍ သင့်လျော်သလို တာဝန်ပေးအပ်ရမည်။ ဝန်ထမ်းများအား သတ်မှတ်အလုပ်ချိန်ထက် ပိုမိုဆောင်ရွက်စေခဲ့ပါက "အငှားချထားခြင်းခံရသူ"က အချိန်ပိုကြေးပေးခြင်းကို အလုပ်ရှင်နှင့် အလုပ်သမားမှ တည်ဆဲအလုပ်သမား ဥပဒေများအတိုင်း ဆောင်ရွက်ပေးရမည်။

(ဏ) စက်ရုံဝန်ထမ်းများအတွက် သွားလာရေးကိစ္စများ၊ ကျန်းမာရေးဆိုင်ရာကိစ္စရပ်များ အဆင်ပြေစေရေးအတွက် ဝန်ထမ်းကြို/ ပို့ယာဉ်များ၊ အုပ်ချုပ်မှုသုံးယာဉ်များနှင့် အခြားအရေးကြီး ကိစ္စရပ်များအတွက် မော်တော်ယာဉ်များကို "အငှားချထားခြင်းခံရသူ" က သင့်လျော်သလို စီစဉ်ဆောင်ရွက် ပေးရမည်။

(ဗ) မိမိဝန်ထမ်းများ လုပ်ငန်းခွင်တွင် ပျော်ရွှင်စွာလုပ်ကိုင်နိုင်ရေးအတွက် ဝန်ထမ်းများ သက်သာချောင်ချိရေး၊ (Corporate Social Responsibility (CSR))၊ အိမ်ရာ၊ ရေ၊ မီး၊ ကျောင်း၊ ဆေးပေးခန်း၊ သာရေး၊ နာရေးကိစ္စရပ်များ၊ ကျန်းမာရေးနှင့် ညီညွတ်သော နေထိုင်ရေးအစီအစဉ်များကို "အငှားချထားခြင်းခံရသူ"က သင့်လျော်သလို စီစဉ်ဆောင်ရွက်ပေးရမည်။

(ဏ) "အငှားချထားခြင်းခံရသူ"ထံ၌ ဆက်လက်လုပ်ကိုင်သည့် ဝန်ထမ်းများအနက် နိုင်ငံ့ဝန်ထမ်းအဖြစ် ဆက်လက်တည်ရှိနေမည့် ဝန်ထမ်းများအား နိုင်ငံ့ဝန်ထမ်းဥပဒေ၊ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေများ၊ လူမှုဖူလုံရေးဥပဒေ၊ နည်းဥပဒေများနှင့်အညီ ခံစားခွင့်ရှိသည်များကို ခံစားခွင့်ပြုရမည်။ "အငှားချထားခြင်းခံရသူ"ထံ၌ ဆက်လက်လုပ်ကိုင်မည့် ဝန်ထမ်းများအနက် နိုင်ငံ့ဝန်ထမ်း မဟုတ်တော့သူများအား တည်ဆဲအလုပ်သမားဥပဒေ၊ နည်းဥပဒေများပါ ရပိုင်ခွင့်များနှင့်အညီ ခံစားခွင့်ပြုရမည်။

(တ) လက်ရှိခန့်အပ်ထားသော နေ့စားဝန်ထမ်းများအနေဖြင့် စက်ရုံတွင် ဆက်လက်တာဝန်ထမ်းဆောင်ရန် ဆန္ဒရှိပါက "အငှားချထားခြင်းခံရသူ" က ၎င်းတို့အား ဆက်လက် တာဝန်ပေး ခန့်ထားရမည်။

(ထ) **နောက်ဆက်တွဲ(ဂ)**ပါ လွှဲပြောင်းပေးသည့် ဝန်ထမ်းများ၏ ဝန်ထမ်းရေးရာကိစ္စရပ်များနှင့် ပတ်သက်၍လည်းကောင်း၊ "အငှားချထားခြင်းခံရသူ"နှင့် ဝန်ထမ်းများအကြား အငြင်းပွားမှုဖြစ်လာပါက ညှိနှိုင်းဖြေရှင်း ဆောင်ရွက်နိုင်ရန်အတွက် လည်းကောင်း တစ်ဖက်ဖော်ပြပါ ပုဂ္ဂိုလ်များပါဝင်သော စီမံခန့်ခွဲရေးအဖွဲ့ကို ဖွဲ့စည်းဆောင်ရွက်ရမည်-

| | | |
|---|---|---|
| (၁) | ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | ဥက္ကဋ္ဌ |
| (၂) | မန်နေဂျင်းဒါရိုက်တာ<br>Myanmar Electrical Business Group Public Co., Ltd. | အဖွဲ့ဝင် |
| (၃) | အထွေထွေမန်နေဂျာ (နည်းပညာဖွံ့ဖြိုးရေးဌာန)<br>အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | အဖွဲ့ဝင် |
| (၄) | အထွေထွေမန်နေဂျာ (အုပ်ချုပ်ရေးဌာန)<br>အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | အဖွဲ့ဝင် |
| (၅) | ဒါရိုက်တာ<br>Myanmar Electrical Business Group Public Co., Ltd. | အဖွဲ့ဝင် |
| (၆) | ဒါရိုက်တာ<br>Myanmar Electrical Business Group Public Co., Ltd. | အဖွဲ့ဝင် |
| (၇) | စက်ရုံမှူး(သို့မဟုတ်) စက်ရုံတာဝန်ခံ<br>အမှတ်(၃၅)အကြီးစားစက်ရုံ(ချောက်) | အတွင်းရေးမှူး |

( ဒ ) နောက်ဆက်တွဲ(ဂ)ပါ လွှဲပြောင်းပေးသည့် ဝန်ထမ်းများ၏ နိုင်ငံ့ဝန်ထမ်းနည်းဥပဒေ အခန်း(၄)၊ အပိုဒ်(၂၇)(က)အရ ရာထူးတိုးမြှင့်ခန့်ထားရေး ကိစ္စရပ်များ အပါအဝင် အခြားသော ဝန်ထမ်းရေးရာကိစ္စရပ်များနှင့် ပတ်သက်၍ လည်းကောင်း၊ အုပ်ချုပ်ရေးဆိုင်ရာကိစ္စရပ်များအပါအဝင် အခြားသောအငြင်းပွားဖွယ်ကိစ္စရပ်များ တစ်စုံတစ်ရာ ဖြစ်ပွားလာပါကလည်းကောင်း စီမံခန့်ခွဲရေးအဖွဲ့က တာဝန်ယူ ဖြေရှင်းဆောင်ရွက်ပေးရမည်။ ဝန်ထမ်းအိမ်ရာ စီမံခန့်ခွဲမှုကိစ္စရပ်များကိုလည်း စီမံခန့်ခွဲရေးအဖွဲ့က ကြီးကြပ် ပေးရမည်။

**ငှားရမ်းခနှုန်းထား**

၁၃။ အပိုဒ်(၅)ပါမြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းများနှင့် အခြားပုံသေပိုင်ပစ္စည်းများအတွက် ကနဦးငှားရမ်းခနှုန်းထားမှာ တစ်နှစ်လျှင်ကျပ် (၁၇၂) သန်း (ကျပ်တစ်ရာခုနှစ်ဆယ့်နှစ်သန်းတိတိ) ဖြစ်သည်။

၁၄။ ငှားရမ်းခ နှုန်းထားအား (၂) နှစ် (၁) ကြိမ် နှစ်ဦးနှစ်ဖက် ပြန်လည်သုံးသပ်ပြီး နောက်ဆုံး ငှားရမ်းခ (၁)နှစ် စာ၏ (၂% - ၅%) အတွင်း တိုးတောင်း ပိုင်ခွင့်ရှိသည်။ ငှားရမ်းခနှုန်းထားကို နှစ်ဦးသဘောတူ ညှိနှိုင်းပြင်ဆင်ခြင်းအား စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြ အတည်ပြုချက်ရယူ၍ ပြင်ဆင်သတ်မှတ်နိုင်သည်။

**ဘဏ်အာမခံ (Performance Bank Guarantee) ပေးသွင်းခြင်း**

၁၅။ ဘဏ်အာမခံ (Performance Bank Guarantee) ကို "အငှားချထားခြင်းခံရသူ" သည် မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ အသိအမှတ်ပြုထားသော ဘဏ်တစ်ခုခုသို့ သက်တမ်းတစ်နှစ်ဖြင့် ပေးသွင်းပြီးမှ စာချုပ် လက်မှတ်ရေးထိုးမည် ဖြစ်သည်။ ဘဏ်အာမခံ (Performance Bank Guarantee) သည် စာချုပ်တန်ဖိုး၏ (၁၀%) ဖြစ်သော ငွေကျပ် (၁၇.၂၀၀) သန်း (ကျပ်တစ်ရာခုနှစ်ဆယ့်နှစ်သိန်းတိတိ)ကို ဘဏ်အာမခံ (Performance Bank Guarantee)အဖြစ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ အသိအမှတ်ပြုထားသော ဘဏ်တစ်ခုခုသို့ ပေးသွင်းပြီး ဘဏ်အာမခံ (Performance Bank Guarantee) မူရင်းကို "အငှားချထားသူ" သို့ အပ်နှံရမည်။

၁၆။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက ဘဏ်အာမခံ (Performance Bank Guarantee) ကို "အငှားချထားသူ"မှ သိမ်းယူမည်ဖြစ်ပြီး ကုမ္ပဏီအား (Black List) အမည်ပျက်စာရင်း သွင်းခြင်းခံရမည်။

**ဘဏ်အာမခံ (Performance Bank Guarantee) သက်တမ်း**

၁၇။ "အငှားချထားခြင်းခံရသူ" မှ ပေးသွင်းထားသည့် ဘဏ်အာမခံ (Performance Bank Guarantee) ၏ သက်တမ်းသည် တစ်နှစ်ဖြစ်ပြီး သက်တမ်းကုန်ဆုံးသည့်အချိန်တွင် "အငှားချထားခြင်းခံရသူ"မှ (၁) နှစ် တစ်ကြိမ် ဘဏ်အာမခံ (Performance Bank Guarantee) အား သက်တမ်းတိုး ပေးရမည်။ စာချုပ်ကာလတစ်လျှောက် နှစ်စဉ် သက်တမ်းတိုးပေးထားရမည်။

**စပေါ်ငွေ ပေးသွင်းခြင်း**

၁၈။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်တန်ဖိုး၏ (၁) လစာ ဖြစ်သော ငွေကျပ် (၁၄.၃၄) သန်း (ကျပ်တစ်ရာလေးဆယ့်သုံးသိန်းလေးသောင်းတိတိ) ကို စပေါ်ငွေအဖြစ် အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ ဘဏ္ဍာရေးဌာနသို့ စာချုပ် မချုပ်ဆိုမီ ရက်သတ္တတစ်ပတ်အတွင်း ပေးသွင်းထားရမည်။ စပေါ်ငွေကို စာချုပ်သက်တမ်းတစ်လျှောက် ပေးသွင်းရမည် ဖြစ်ပြီး၊ စာချုပ်သက်တမ်း ကုန်ဆုံး၍ လုပ်ငန်းများ ပြီးပြတ်ပါက Performance Bank Guarantee နှင့် အတူ စပေါ်ငွေကို ပြန်လည်ထုတ်ပေးမည် ဖြစ်သည်။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက စပေါ်ငွေကို "အငှားချထားသူ"မှ သိမ်းယူမည် ဖြစ်သည်။

**ငှားရမ်းခပေးသွင်းခြင်း**

၁၉။ "အငှားချထားခြင်းခံရသူ"သည် ဤစာချုပ် လက်မှတ်ရေးထိုးသည့် နေ့ရက်မတိုင်မီ ရက်သတ္တတစ်ပတ်အတွင်း ငှားရမ်းခ (၁၂) လစာဖြစ်သော ငွေကျပ် (၁၇၂.၀၀၀) သန်း (ကျပ် တစ်ရာခုနှစ်ဆယ့်နှစ်သန်းတိတိ)အား ကြိုတင်ပေးသွင်း ရမည်။ ငှားရမ်းခ (၁၂) လစာ အတွက် (၅%) ကို သက်ဆိုင်ရာ အခွန်ရုံးတွင် ကုန်သွယ်လုပ်ငန်းခွန်အဖြစ် ပေးဆောင်ထားရန်နှင့် ပေးဆောင်ထားပြီး အခွန်ချလံကို "အငှားချထားသူ"သို့ တစ်ပါတည်း အပ်နှံထားရမည်။

၂၀။ "အငှားချထားခြင်းခံရသူ"သည် ဤစာချုပ် ချုပ်ဆိုပြီး တစ်နှစ်ပြည့်ပြီးပါက (၃) လ ၏ ငှားရမ်းခဖြစ်သော ငွေကျပ် (၄၃.၀၀၀) သန်း (ကျပ် လေးဆယ့်သုံးသန်းတိတိ)ကို (၃) လ တစ်ကြိမ် ပထမလ၏ ပထမဦးဆုံး (၇) ရက် အတွင်း အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း၊ ဘဏ်ငွေစာရင်းသို့ ပေးသွင်းရမည်။ (၃) လ အတွက် ငှားရမ်းခငွေ၏ (၅%) ကို သက်ဆိုင်ရာ အခွန်ရုံးတွင် ကုန်သွယ်လုပ်ငန်းခွန်အဖြစ် ပေးဆောင်ထားရန်နှင့် ပေးဆောင်ထားပြီး အခွန်ချလံကို "အငှားချထားသူ" သို့ အပ်နှံထားရမည်။

၂၁။ စာချုပ် ချုပ်ဆိုပြီး တစ်နှစ်ပြည့်ပြီးနောက် (၃) လ တစ်ကြိမ် ငှားရမ်းခပေးသွင်းရာတွင် ငှားရမ်းခပေးသွင်းရန် နောက်ကျပါက ရက်သတ္တပတ်၊ တစ်ပတ်နောက်ကျတိုင်း ရက်လွန်ကြေးအဖြစ် (၃) လ အတွက် ငှားရမ်းခ၏ (၁%) ကို "အငှားချထားခြင်းခံရသူ"မှ ပေးသွင်းရမည်။ တစ်ရက် နောက်ကျလျှင် ရက်သတ္တပတ်အတွင်းရှိပါသဖြင့် (၁%) ပေးသွင်းရမည် ဖြစ်ပြီး၊ တစ်ပတ်နှင့် တစ်ရက် ဖြစ်ပါက (၂) ပတ်စာ ပေးသွင်းရမည် ဖြစ်သည်။ အဆိုပါ သတ်မှတ် ရက်လွန်ကြေးသည် ဤသဘောတူစာချုပ် ရပ်စဲသည့်ကာလအထိ အကျုံးဝင်သည်။ သို့သော် ရက်လွန်ကြေးသည် စုစုပေါင်းငှားရမ်းခ၏ (၅%) ထက် မကျော်စေရ။ "အငှားချထားခြင်းခံရသူ"မှ ကုန်သွယ်လုပ်ငန်းခွန်နှင့် တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ရန် ဖြစ်ပေါ်လာပါ က ဆောင်ရွက်ပေးရမည်။ "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းခကို (၆) လ ကျော်လွန်သည့်တိုင်အောင် ပေးသွင်းလာ ခြင်းမရှိပါက ဘဏ်အာမခံနှင့် စပေါ်ငွေနှစ်မျိုးစလုံးကို "အငှားချထားသူ" က သိမ်းယူမည်ဖြစ်ပြီး နှစ်ဖက်ညှိနှိုင်း၍ စာချုပ်ရပ်စဲနိုင်သည်။

**"အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ**

၂၂။ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) နောက်ဆက်တွဲပါ မြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းကိရိယာများနှင့် အခြားပုံသေပိုင်ပစ္စည်းများကို စာချုပ်သက်တမ်းအတွင်း ငှားရမ်း၍ စာချုပ်ပါစည်းကမ်းများနှင့်အညီ စာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ခ) စက်ရုံနှင့် ပတ်သက်သည့်ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းဇယားများအားလုံးအား စနစ်တကျ ထိန်းသိမ်းဆောင်ရွက်ရမည်။ စီမံကိန်းဆိုင်ရာ အချက်အလက်များ၊ စီမံကိန်းဆိုင်ရာစာရွက်စာတမ်းများ၊ စီမံကိန်းအားတာဝန်ယူ ဆောက်လုပ်ခဲ့သည့် ကုမ္ပဏီ(ပြည်ပ/ပြည်တွင်း)များဆိုင်ရာ အချက်အလက်များအား မသက်ဆိုင်သူများထံ အသိပေးခြင်း မပြုလုပ်ရ။

(ဂ) "အငှားချထားခြင်းခံရသူ"သည် **နောက်ဆက်တွဲ (ဃ - ၁) မှ (ဃ - ၆)** ပါ စက်ရုံရှိကုန်ကြမ်း၊ ထုတ်လုပ်ဆဲကုန်ကြမ်း၊ ကုန်ချော၊ စက်အရန်ပစ္စည်း၊ စတိုလက်ကျန်ပစ္စည်း၊ စက်ဆီ၊ ချောဆီ၊ မီးထိုးဆီ၊ ဒီဇယ်ဆီစသည့် လက်ကျန်ပစ္စည်းအားလုံးကို နှစ်ဦးနှစ်ဖက် ပါဝင်သောအဖွဲ့ဖြင့် စနစ်တကျစစ်ဆေး၍ ဈေးနှုန်းသတ်မှတ် ဝယ်ယူရမည်။ ငှားရမ်းစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ၂ နှစ် ကာလအတွင်း ၃ လ တစ်ကြိမ် ငွေပေးချေ ဝယ်ယူရမည်။

(ဃ) “အငှားချထားခြင်းခံရသူ”သည် ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်နှင့်အညီ သတ်မှတ်ထားသည့် အချိန်အတွင်း “အငှားချထားသူ” ထံ မှန်မှန်ကန်ကန် ပေးသွင်းရမည်။

( င ) “အငှားချထားခြင်းခံရသူ”သည် စာချုပ်လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ ဝန်ထမ်းများ၏ လစာနှင့်စရိတ်များကို “အငှားချထားခြင်းခံရသူ”မှ တာဝန်ယူဆောင်ရွက်ရမည်။

( စ ) မူလအဆောက်အဦများကို ပြုပြင်ခြင်း၊ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ အဆောက်အဦတိုးချဲ့ဆောက်လုပ်ခြင်း၊ လုပ်ငန်းတိုးချဲ့ခြင်း၊ စက်ပစ္စည်းများထပ်တိုးခြင်းများကို ဆောင်ရွက်ခွင့်ရှိပြီး “အငှားချထားသူ”၏ ခွင့်ပြုချက်ရယူ၍ ညှိနှိုင်းဆောင်ရွက်ရမည်။ စက်ရုံဧရိယာအတွင်း ထုတ်လုပ်မှုဆိုင်ရာ အဆောက်အဦ တိုးချဲ့ဆောက်လုပ်ခြင်း၊ လုပ်ငန်းတိုးချဲ့ခြင်းများ ဆောင်ရွက်လိုပါက မြေအသုံးပြုခ အဖိုးစားနားနှင့်မြေအသုံးချမှု ပရီမီယံကြေးအား ပေးဆောင်ရမည်။ လက်ရှိရိပ်သာများ၊ အိမ်ရာများ၊ အဆောင်များကို မူလသတ်မှတ်နေရာချထားမှု အတိုင်းထားရှိရမည်။ အဆောက်အဦ၊ မီး၊ ရေတို့ကို ပိုမိုကောင်းမွန်အောင် ပြုပြင်မွမ်းမံနိုင်ခွင့်ရှိပြီး “အငှားချထားသူ”၏ ခွင့်ပြုချက်ရယူ ဆောင်ရွက်ရမည်။

(ဆ) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲလျှပ်စစ်ဥပဒေ၊ လျှပ်စစ်နည်းဥပဒေများနှင့်အညီ သုံးစွဲရမည်။ လျှပ်စစ်အန္တရာယ်ကင်းရှင်းစေရေး၊ မီးဘေး၊ ရေဘေး၊ လေဘေး၊ အဖျက်သမားရန်ကာကွယ်ရေး အစီအမံများလုံလောက်စွာ ထားရှိရမည်။

( ဇ ) အငှားချထားသည့် စက်ရုံ၏အခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့်ပစ္စည်းများ၏ အရည်အသွေးကိုလည်းကောင်း၊ စစ်ဆေးရန်လိုအပ်ပါက “အငှားချထားသူ”က နည်းလမ်းတကျ လုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များကို ဝင်ရောက်ခွင့်ပြုရမည်။

( ဈ ) Test Certificate များကို နိုင်ငံတကာ အသိအမှတ်ပြု 3rd Party Laboratory များတွင် စမ်းသပ်အတည်ပြုရမည်။

(ည) Standard များကိုလည်း Customer နှင့် National Standardization ၏ လိုအပ်ချက်အတိုင်း လိုက်နာထုတ်လုပ် ရမည်။

( ဋ ) အငှားချထားသည့်ပစ္စည်းများနှင့် ပတ်သက်၍ မြေခွန်မှအပ စည်ပင်သာယာခွန်၊ တံဆိပ်ခေါင်းခွန်၊ အခြားအခွန်အခများနှင့် ထုတ်လုပ်မှုနှင့်သက်ဆိုင်သည့် အခွန်အခ အမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ဌ) အငှားချထားသည့်စက်ရုံအတွက် မီးအာမခံအပါအဝင် အလုံးစုံအာမခံကို မြန်မာ့အာမခံလုပ်ငန်းဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်ပြီး၊ အာမခံသက်တမ်းကျော်လွန်မှု မရှိစေရေးတာဝန်ယူ ဆောင်ရွက်ရမည်။

(ဍ) ဤသဘောတူစာချုပ် သက်တမ်းကုန်သည့်အခါ အငှားချထားသည့်စက်ရုံကို မူလငှားရမ်းစဉ် အခြေအနေအတိုင်း ပြန်လည်ပေးအပ် ရမည်ဖြစ်သဖြင့် ၎င်းအခြေအနေထက် မလျော့စေရန်ပြုပြင်မွမ်းမံ ထိန်းသိမ်းထားရမည်။ သို့ရာတွင် သဘာဝအလျောက် ချွတ်ယွင်းမှု (Wear and Tear) အခြေအနေကို လက်ခံရမည်။ "အငှားချထားခြင်းခံရသူ"၏ မှားယွင်းချွတ်ချော်မှု (သို့မဟုတ်) ပျက်ကွက်မှုကြောင့်မဟုတ်သည့် စာချုပ်ရပ်စဲရသည့် ကိစ္စရပ်ဖြစ်ပေါ်ခဲ့ပါက "အငှားချထားခြင်းခံရသူ"၏ ထိခိုက်နစ်နာ ဆုံးရှုံးမှုများအတွက် "အငှားချထားသူ"က သင့်တော်သလို စီမံပေးရန် တာဝန်ရှိစေရမည်။

(ဎ) အငှားချထားသည့်စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများအားလုံးသည် ငှားရမ်းခြင်း စာချုပ်သက်တမ်း ကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန်မလိုဘဲ "အငှားချထားသူ" ပိုင်ပစ္စည်းများ အလိုအလျောက် ဖြစ်လာရမည်။ ဆောက်လုပ်ပြီး အဆောက်အဦများကို မထိခိုက်စေဘဲ "အငှားချထားခြင်းခံရသူ"၏ ကုန်ကျစရိတ်ဖြင့် ဝယ်ယူတပ်ဆင်ထားသည့် ပစ္စည်းများကို လွတ်လပ်စွာ ဖြုတ်ယူခြင်း၊ သယ်ဆောင်ခြင်း၊ ရယူပိုင်ဆိုင်ခြင်း ပြုလုပ်ပိုင်ခွင့် ရှိစေရမည်။

(ဏ) ကုန်ချောပစ္စည်းများကို ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(တ) မိမိ၏ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါ ကုန်အမှတ်တံဆိပ်နှင့်စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကို ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် "အငှားချထားခြင်းခံရသူ"၏ တာဝန်သာဖြစ်သည်။

(ထ) စက်ရုံမှ မထုတ်လုပ်ဖူးသော စက်မှုထုတ်ကုန်ပစ္စည်းအမယ်သစ်ကို ယုတ်လုပ်လိုပါက "အငှားချထားသူ" နှင့် ညှိနှိုင်းထုတ်လုပ်ခွင့်ရှိသည်။ "အငှားချထားခြင်းခံရသူ"သည် ကုန်ပစ္စည်းအမယ်သစ်ထုတ်လုပ်ရာတွင် စက်ရုံ၏ မူလတပ်ဆင်ထားသော စက်ပစ္စည်းကိရိယာများကို အသုံးမပြုတော့ဘဲ အသစ်ထုတ် လုပ်မည့်ကုန်ပစ္စည်းနှင့် သက်ဆိုင်သော စက်ပစ္စည်းကိရိယာအသစ်များကို တပ်ဆင်လိုပါက လုပ်ငန်းဆောင်ရွက်ခြင်းမပြုမီ "အငှားချထားသူ" ထံ တင်ပြ သဘောတူညီချက်ရယူရမည်။

(ဒ) အငှားချထားသည့်စက်ရုံတွင် ဤစာချုပ်အရခွင့်ပြုထားသည့် စက်မှုလုပ်ငန်းမှအပ အခြားလုပ်ငန်းများ ဆောင်ရွက်ပါက "အငှားချထားသူ" ၏ ကြိုတင်ခွင့်ပြုချက် ရယူပြီး၊ အဆိုပါလုပ်ငန်းသည် မူလလုပ်ကိုင်သည့် စက်မှုလုပ်ငန်းနှင့် လုပ်ငန်းရည်ရွယ်ချက်ခြင်းမတူညီပါက စက်မှုဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု

ကော်မရှင်၏ ခွင့်ပြုချက်ရယူပြီးမှ ဆောင်ရွက်ရမည်။ ဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများ လုံး၀ (လုံး၀) လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုရ။

(ဓ) "အငှားချထားခြင်းခံရသူ"သည် စာချုပ်မချုပ်ဆိုမီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ကို ရယူထားရမည်။

(န) "အငှားချထားခြင်းခံရသူ"မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများ ထားရှိပြီး "အငှားချထားသူ"ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(ပ) စက်ရုံအတွင်း စိမ်းလန်းစိုပြေရေးနှင့် သာယာလှပရေး လုပ်ငန်းစဉ်များအတွက် "အငှားချထားခြင်းခံရသူ" မှ အစဉ်တစိုက် ဆောင်ရွက်သွားရမည်။

(ဖ) အငှားချထားသည့် စက်ရုံတွင် အသုံးပြုသော သဘာ၀ဓာတ်ငွေ့၊ လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား သတ်မှတ်ရက်အတွင်း အချိန်မီပေးဆောင်ရမည်ဖြစ်ပြီး ပေးဆောင်ထားသည့်ပြေစာ အထောက်အထားမိတ္တူများအား "အငှားချထားသူ" ထံ လစဉ်ပေးပို့ရမည်။

(ဗ) ထုတ်လုပ်သည့် ထုတ်ကုန်များ၏ အမျိုးအစားများ၊ နှစ်စဉ်လုပ်ငန်းလျာထားချက်၊ လစဉ်လုပ်ငန်းလျာထားချက်၊ ကုန်ထုတ်လုပ်မှု၊ ဖြန့်ဖြူးမှုများ၊ ကုန်ချော လက်ကျန်များနှင့် လုပ်ငန်းလုပ်ဆောင်မှုများအား "အငှားချထားသူ" ထံ လစဉ်ပေးပို့ရမည်။

(ဘ) လေထု၊ ရေထုနှင့်မြေထုအပါအဝင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးကို စဉ်ဆက်မပြတ် သတိပြု ဆောင်ရွက်ပေးရမည်။ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ညွှန်ကြားထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့် အညီတာဝန်ယူ ဆောင်ရွက်ပေးရမည်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဌာနမှ IEE ၊ EIA ၊ EMP အစီရင်ခံစာ ရေးသားပြုစုရန် ညွှန်ကြားလာပါက အစီရင်ခံစာများအား မပျက်မကွက် ရေးဆွဲတင်ပြရမည်။

(မ) ထုတ်ကုန်အသစ်ထုတ်လုပ်ခြင်း၊ လုပ်ငန်းများပြင်ဆင်ခြင်း၊ လုပ်ငန်းသစ်များပြုလုပ်ခြင်းများကို "အငှားချထားသူ"ထံ လစဉ် ပေးပို့ရမည်။ ကုမ္ပဏီလိပ်စာ ပြောင်းလဲခြင်း၊ ဒါရိုက်တာအဖွဲ့ဝင်များ ပြောင်းလဲခြင်းရှိသည့်အချိန်တိုင်း "အငှားချထားသူ"သို့ ကြိုတင်အသိပေး အကြောင်းကြားရမည်ဖြစ်ပါသည်။

(ယ) အငှားချထားသည့်စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓါတ်ဆီတို့အား "အငှားချထားခြင်းခံရသူ"၏ အစီအမံဖြင့် စီစဉ်ဆောင်ရွက်ရမည်။

(ရ) စက်ရုံရှိ မော်တော်ယာဉ်များနှင့် ပတ်သက်၍ စက်သုံးဆီနှင့် ယာဉ်ပြုပြင်ထိန်းသိမ်းမှုများနှင့် ယာဉ်လိုင်စင် သက်တမ်းတိုးခြင်းတို့ကို "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူ ဆောင်ရွက်ရမည်။

(လ) စက်ရုံရှိ စက်သုံးဆီ ရေနံထွက်ပစ္စည်း သိုလှောင်ကန်များအတွက် ရေနံထွက်ပစ္စည်း သိုလှောင်ခွင့်လိုင်စင်သက်တမ်းတိုးခြင်းကို နှစ်စဉ် သက်တမ်းမကုန်ဆုံးမီ မပျက်မကွက် (မပျက်မကွက်) ဆောင်ရွက်ရမည်။

(ဝ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် လျှပ်စစ်ဓါတ်အားခ၊ မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့အတွက် ကျသင့်ငွေများအား လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထားအတိုင်း သတ်မှတ်ရက်အတွင်းပေးချေရမည်ဖြစ်ပြီး ပေးချေရန်နောက်ကျပါက သက်ဆိုင်ရာဌာန၏ ဓာတ်အားဖြတ်တောက်ခြင်းခံရမည်ကို "အငှားချထားခြင်းခံရသူ"မှ သိရှိသဘောတူရမည်။

(သ) "အငှားချထားသူ"၊ "အငှားချထားခြင်းခံရသူ" နှင့် မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းတို့ ချုပ်ဆိုမည့် သဘာဝဓာတ်ငွေ့ရောင်းချမှု စာချုပ်ကို လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူပြီးမှ ချုပ်ဆိုရမည်။ ၎င်းသဘာဝဓာတ်ငွေ့ရောင်းချမှု စာချုပ်ပါ စည်းမျဉ်းစည်းကမ်းချက်များကို သိရှိနားလည်ပြီး တာဝန်ယူလိုက်နာ ဆောင်ရွက်ရမည်။ လိုက်နာရန် ပျက်ကွက်သည့်အတွက် ဖြစ်ပေါ်လာသော ပေးလျော်ရန်ကိစ္စများကို "အငှားချထား ခြင်းခံရသူ"မှ တာဝန်ယူဖြေရှင်း ရမည်။

(ဟ) "အငှားချထားခြင်းခံရသူ"သည် စက်ရုံငှားရမ်းရန်အတွက် တင်ပြခဲ့သော အဆိုပြုလွှာပါအချက်များကို သွေဖည်ခြင်း မရှိစေရ။

(ဠ) အငှားချထားသည့် စက်ရုံနှင့် စာချုပ်နောက်ဆက်တွဲပါ ပစ္စည်းများကို တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ ကိုယ်စားဆောင်ရွက်စေခြင်း (သို့မဟုတ်) တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း စသည်တို့ကို လုံးဝ (လုံးဝ) မပြုလုပ်ရ။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်၏ရည်ရွယ်ချက်ပါ လုပ်ငန်းများဆောင်ရွက်ရန်အတွက် နိုင်ငံခြားအဖွဲ့အစည်းများ၊ နိုင်ငံခြားလူပုဂ္ဂိုလ်များ၊ ပြည်တွင်းအဖွဲ့အစည်းများ၊ ပြည်တွင်းလူပုဂ္ဂိုလ်များနှင့် ပူးပေါင်းဆောင်ရွက် နိုင်သည်။ ထိုသို့ဆောင်ရွက်ရန်အတွက် "အငှားချထားသူ"သို့ ကြိုတင်အသိပေးအကြောင်းကြားရမည်။

(အ) "အငှားချထားခြင်းခံရသူ"သည် နှစ်ရှည်ငှားရမ်း စာချုပ် ချုပ်ဆိုခြင်းအပေါ် ကိုက်သင့်သည့် တံဆိပ်ခေါင်းခွန်ကို ထမ်းဆောင်ရမည်။

**"အငှားချထားသူ"၏တာဝန်နှင့် လုပ်ပိုင်ခွင့်များ**

၂၃။ "အငှားချထားသူ"၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) "အငှားချထားခြင်းခံရသူ"အား စက်ရုံနှင့်စာချုပ် နောက်ဆက်တွဲပါ အငှားချထားသည့် ပစ္စည်းများကို အသုံးပြုခွင့်ပေးရမည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော သဘာဝဓါတ်ငွေ့၊ လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းတို့ကို "အငှားချထားခြင်းခံရသူ"အား ဆက်လက်အသုံးပြုခွင့်ပြုရမည်။

(ဂ) "အငှားချထားခြင်းခံရသူ"မှ စာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်နေသည့်အချိန်တွင် "အငှားချထားသူ"မှ အမြဲစောင့်ကြည့်အကဲဖြတ်ခြင်း (monitoring) ပြုလုပ်မည်။ အငှားချထားသည့် စက်ရုံအခြေအနေများကို နည်းလမ်းတကျလုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များစေလွှတ်၍ ညှိနှိုင်းစစ်ဆေးနိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက် ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။ စာချုပ် ချုပ်ဆိုခြင်း မပြုမီ ပြည်တွင်းပြည်ပ ကြွေးမြီများ ကင်းရှင်းသဖြင့် စာချုပ် ချုပ်ဆိုခြင်းဖြစ်ပြီး၊ နောင်တစ်ချိန် ကြွေးမြီကိစ္စ ပေါ်ပေါက်လာပါ က "အငှားချထားသူ"မှ တာဝန်ယူ ဆောင်ရွက် ရမည်။

(င) စက်ရုံတွင် အသုံးပြုသော သဘာဝဓါတ်ငွေ့၊ လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေး၊ အာမခံကြေးနှင့် အခွန်အခများအား "အငှားချထားခြင်းခံရသူ"မှ လစဉ် အချိန်မီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။

(စ) "အငှားချထားခြင်းခံရသူ"၏ စာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်နိုင်စေရေးအတွက် နိုင်ငံခြားသားများ ပြည်တွင်းနေထိုင်ခွင့်၊ ဗီဇာသက်တမ်းတိုးခြင်းကိစ္စများ ရရှိစေရန် ပူးပေါင်းဆောင်ရွက်ပေးရမည်။

(ဆ) အငှားချထားသည့်စက်ရုံနှင့် သက်ဆိုင်သော အာမခံများ၏ အာမခံသက်တမ်း ကျော်လွန်မှု မရှိစေရေး ကြပ်မတ်ဆောင်ရွက်ရမည်။

(ဇ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီ၊ သဘာဝဓါတ်ငွေ့များနှင့် လျှပ်စစ်ဓါတ်အား လုံလောက်စွာ စဉ်ဆက်မပြတ်ရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက် ပေးရမည်။

(ဈ) နိုင်ငံတော်လိုအပ်ချက်အရ လုပ်ငန်းရပ်စဲရန်ကိစ္စများ ဖြစ်ပေါ်လာပါက (၆) လ ကြိုတင် အကြောင်းကြားမည်ဖြစ်ပြီး စာချုပ်ကိုရပ်စဲနိုင်သည်။ ယင်းသို့ပြုလုပ်ပါက "အငှားချထားခြင်းခံရသူ"၏ ကရားဝင်တိုက်ရိုက် ဆုံးရှုံးနစ်နာမှုမှန်သမျှ သင့်လျော်သလို ညှိနှိုင်းဆောင်ရွက်ပေးရန် ဖြစ်ပါသည်။

(ည) ဤစာချုပ်သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) စာချုပ်ရပ်စဲချိန်တွင် အငှားချထားသည့်ပစ္စည်းများကို "အငှားချထားခြင်းခံရသူ"ထံမှ အဖိုးစားနားမပါရှိဘဲ ပြန်လည်လက်ရောက် ရယူခွင့်ရှိရမည်။ မူလငှားရမ်းထားသော ပစ္စည်းများမှလွဲ၍ ထပ်မံရင်းနှီးမြှုပ်နှံထားသော စက်ပစ္စည်းများ မပါဝင်ပါ။

## အငြင်းပွားမှုဖြေရှင်းခြင်း

၂၄။ ဤစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသော နည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက် ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်း၍ မရနိုင်

ပါ က ဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအတွင်း စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ် ချက်ကို ခံယူရမည်။

**သဘာဝသယံဇာတပစ္စည်းတွေ့ရှိခြင်း**

၂၅။ ဤစာချုပ်သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့်မြေ၏ မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတ ပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများအစရှိသည်တို့ကို တွေ့ရှိလျှင် ၎င်းတို့ အား နိုင်ငံတော်ပိုင်အဖြစ် မှတ်ယူရမည်ဖြစ်ပြီး "အငှားချထားသူ" ထံသို့ ချက်ချင်း အကြောင်း ကြားရမည်။ ရှေးဟောင်းအမွေအနှစ်များကို ထိခိုက်ပျက်စီးမှု မရှိစေရန်အတွက် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့ နှစ်ဖက်စလုံးမှ ထိန်းသိမ်းကြပ်မတ် ဆောင်ရွက်ပေးရန် ဖြစ် သည်။ မြေနေရာ အစားပေးခြင်း အပါအဝင် "အငှားချထားခြင်းခံရသူ"၏ နစ်နာမှုကိစ္စအဝဝကို "အငှားချထားသူ"မှ ညှိနှိုင်းဆောင်ရွက် ပေးရမည်။

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၆။ "အငှားချထားခြင်းခံရသူ" သည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့် အခါဖြစ်စေ၊ စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါဖြစ်စေ၊ ဤစာချုပ်ရပ်စဲသည့်အခါဖြစ်စေ၊ မြေ၊ အဆောက်အဦများ၊ မူလစက်ပစ္စည်းကိရိယာများနှင့် အခြားပုံသေပိုင်ပစ္စည်းများ အားလုံးကို "အငှားချထားသူ" သို့ အဖိုးစားနား မပါရှိဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။ ပြန်လည်လွှဲပြောင်းပေးအပ် ခြင်းကို (၆) လ အတွင်း ပြီးစီးအောင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။ ပြန်လည်လွှဲပြောင်း ပေးရမည့်စာရင်းတွင် "အငှားချထား ခြင်းခံရသူ"၏ စရိတ်ဖြင့် ဝယ်ယူတပ်ဆင်ခဲ့သော အုပ်ချုပ်မှုဆိုင်ရာ ရွှေ့ပြောင်းနိုင်သော ပစ္စည်းများဖြစ်သည့် လေအေးပေးစက်၊ ရေခဲသေတ္တာ၊ မီးစက်၊ ပန်ကာ၊ စားပွဲ၊ ကုလားထိုင်၊ ဘီရို၊ ရုံးသုံးပစ္စည်းများ၊ လူစီးယာဉ် စသည်တို့ မပါဝင်ပါ။) အကယ်၍ စာချုပ်သက်တမ်းအတွင်း မလွန်ဆန်နိုင်သည့် ဖြစ်ရပ် များပေါ်ပေါက်ပါက ပြန်လည်အပ်နှံရမည့် အနေအထားကို နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ဆောင်ရွက် ရမည်။

**မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ**

၂၇။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ် ချက်များ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်၊ မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်း သုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချထားခြင်းခံရသူ" နှင့် "အငှားချထားသူ" တို့သည်

နှစ်ဦးနှစ်ဖက် နှစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ဖြစ်ပွားမှုသည် (၆) လ ကျော်ပါက ဥပဒေအရ စာချုပ်ပျက်ပြယ်မည်။ မလွန်ဆန်နိုင်သောကိစ္စရပ်များ ပေါ်ပေါက်လာပြီး စက်ရုံရပ်တန့်ထားသည့်အချိန်တွင် ငှားရမ်းခအား "အငှားချထားခြင်းခံရသူ"သို့ ကင်းလွတ်ခွင့် ပေးရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၂၈။ "အငှားချထားခြင်းခံရသူ"အနေဖြင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်မည့် စီမံကိန်းလုပ်ငန်းများအပေါ်မူတည်၍ သက်ဆိုင်ရာဝန်ကြီးဌာနက သတ်မှတ်သော ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း သို့မဟုတ် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း သို့မဟုတ် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ရေးဆွဲ၍ ပတ်ဝန်ကျင်ထိန်းသိမ်းရေးဆိုင်ရာကိစ္စရပ်များကို အလေးထားဆောင်ရွက်ရမည်။ သတ်မှတ်ကာလစေ့လျှင် ထပ်မံအစစ်ဆေးခြင်း၊ ထပ်မံဆောင်ရွက်ခြင်းတို့ ပြုလုပ်ရမည်။

၂၉။ "အငှားချထားခြင်းခံရသူ" အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့်နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာ ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ ရေထုနှင့်မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေဆိုးသန့်စင်နိုင်သောစက်များတပ်ဆင်ခြင်း၊ လေထုညစ်ညမ်းမှု မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့်အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာထားရှိပေးခြင်းဖြင့် အခြားသောပတ်ဝန်းကျင် ဘေးအန္တရာယ်ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ်အစီအစဉ်များ ဆောင်ရွက်ရမည်။ စက်ရုံအလုပ်ရုံမှ ထွက်လာသော စွန့်ပစ်ပစ္စည်းများ၊ ရေဆိုးများ၊ ဆီဟောင်းများကို သန့်စင်ခြင်းမရှိဘဲ တိုက်ရိုက် စွန့်ပစ်ခြင်းမပြုရ။ စွန့်ပစ်ပစ္စည်း သန့်စင်ရေးစနစ်များ၊ ရေဆိုးသန့်စင်ရေးစနစ်များ တပ်ဆင်တည်ဆောက်၍ သန့်စင်ပြီးမှ စွန့်ပစ်ရမည်။ စက်ရုံအလုပ်ရုံမှ ထွက်လာသော အခိုးအငွေ့များနှင့် အမှုန့်များကို ဖမ်းယူသည့်စနစ်များကို တပ်ဆင်ထားရမည်။ ထိုကဲ့သို့ စွန့်ပစ်ပစ္စည်းများသန့်စင်ခြင်း၊ စွန့်ပစ်ခြင်းတို့ကို တည်ဆဲပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။ ပတ်ဝန်းကျင်ရှိ သစ်ပင်ကြီးများ၊ ပန်းအလှပင်များ၊ သီးပင်စားပင်များအား ခိုင်လုံသော အကြောင်းပြချက်မရှိဘဲ ခုတ်လှဲခြင်း၊ ရွှေ့ပြောင်းခြင်း၊ နုတ်ပစ်ခြင်း မပြုရ။ ဒေသခံများနှင့် လုပ်ငန်းဆိုင်ရာ အဆင်ပြေစေရေး အစဉ်ဆောင်ရွက် ပေးရမည်။ လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် မည်သည့် လျော်ကြေးတောင်းဆိုမှုမျိုးကိုမဆို "အငှားချထားခြင်းခံရသူ"က တာဝန်ယူဖြေရှင်းရမည်။ "အငှားချထားသူ" အပေါ်တွင် တာဝန်မရှိစေရ။ ယခု "အငှားချထားသူ"က ကျင့်သုံးနေသော နည်းစနစ်နှင့် လုပ်ထုံးလုပ်နည်းများကိုလည်း ဆက်လက်ဆောင်ရွက်ရမည်။

